ပုံစံ (၃)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် ၁၂၉/၂၀၁၈ 　　　　　　　　 ၂၀၁၈ ခုနှစ်၊ ဒီဇင်ဘာလ 10 ရက်

မြန်မာနိုင်ငံနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ဥပဒေပုဒ်မ ၂၅ ပုဒ်မခွဲ (ဂ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည် -

(၁) ရင်းနှီးမြှုပ်နှံသူ/ ကမကထပြုသူအမည် ဦးခင်မောင်စန်း

(၂) နိုင်ငံသား မြန်မာ

(၃) နေရပ်လိပ်စာ အမှတ်-၁၈ (A-၁)၊ သာယာဝတီလမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့

(၄) ပင်မအဖွဲ့အစည်းအမည်နှင့်လိပ်စာ မြန်မာအဆင့်မြင့်ကား ကုမ္ပဏီလီမိတက်၊ အမှတ်-၁၈ (A-၁)၊ သာယာဝတီလမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့

(၅) ဖွဲ့စည်းရာအရပ် မြန်မာ

(၆) ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား မော်တော်ယာဉ် တပ်ဆင်ထုတ်လုပ် ရောင်းချခြင်း လုပ်ငန်း

(၇) ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ) မြေကွက်အမှတ်-၂၄၆-M၊ မြေတိုင်းရပ်ကွက်အမှတ်-ဇုန် ၂၊ စက်မှု၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(၈) နိုင်ငံခြားမတည်ငွေရင်းပမာဏ -

(၉) နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ -

(၁၀) စုစုပေါင်း မတည်ငွေရင်းပမာဏ(ကျပ်) ကျပ် ၄,၁၇၇.၉၃၉ သန်း (အမေရိကန်ဒေါ်လာ ဝ.၅၄၉ သန်း အပါအဝင် စုစုပေါင်း ကျပ် လေးထောင့်တစ်ရာ ခုနှစ်ဆယ့်ခုနှစ်သန်းနှင့် ကိုးသိန်း သုံးသောင်း ကိုးထောင်ခန့်)

(၁၁) တည်ဆောက်မှုကာလ ၁ နှစ်

(၁၂) ရင်းနှီးမြှုပ်နှံမှုခွင့်ပြုသည့်သက်တမ်း -

(၁၃) ရင်းနှီးမြှုပ်နှံမှုပုံစံ ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု

(၁၄) မြန်မာနိုင်ငံတွင်ဖွဲ့စည်းမည့်ကုမ္ပဏီအမည် မြန်မာအဆင့်မြင့်ကား ကုမ္ပဏီလီမိတက်

Thaung Tun

(သောင်းထွန်း)

ဥက္ကဋ္ဌ

Form (3)

P000038

# THE REPUBLIC OF THE UNION OF MYANMAR

Myanmar Investment Commission

## PERMIT

Permit No. 129/2018 Dated 10 December 2018

This Permit is issued by the Myanmar Investment Commission according to the section 25, sub-section (c) of the Myanmar Investment Law-

(1) Name of Investor U KHIN MAUNG SAN

(2) Citizenship MYANMAR

(3) Residence Address NO.18(A-1), THAR YAR WADDY STREET, BAHAN TOWNSHIP, YANGON

(4) Name and Address of Principle Organization MYANMAR BRILLIANCE AUTO COMPANY LIMITED, NO.18(A-1), THAR YAR WADDY STREET, BAHAN TOWNSHIP, YANGON

(5) Place of Incorporation MYANMAR

(6) Type of Business ASSEMBLING, MANUFACTURING AND SALES OF MOTOR VEHICLES

(7) Place(s) at which investment is permitted PLOT NO.246/M, MYAY TAING BLOCK- ZONE (2), SET HMU, HLAING THAR YAR TOWNSHIP, YANGON REGION

(8) Amount of Foreign Capital -

(9) Period for Foreign Capital to be brought in -

(10) Total amount of capital (Kyat) 4,177.939 MILLION (INCLUDING US $ 0.549 MILLION)

(11) Construction Period 1 YEAR

(12) Validity of investment permit -

(13) Form of investment WHOLLY MYANMAR OWNED

(14) Name of Company incorporated in Myanmar MYANMAR BRILLIANCE AUTO COMPANY LIMITED

MIC Myanmar Investment Commission

Thaung Tun

(Thaung Tun)
Chairman

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☎ ၀၁-၆၅၈၁၁၂၈
🖷 ၀၁-၆၅၈၁၄၃၁

စာအမှတ်၊မရက- ၃/ခ-၀၃၀/၂၀၁၈ (၂၀၁-က)
ရက်စွဲ ၊ ၂၀၁၈ ခုနှစ် ဒီဇင်ဘာလ ၁၀ရက်

အကြောင်းအရာ။ **Myanmar Brilliance Auto Company Limited (မြန်မာ အဆင့်မြင့် ကားကုမ္ပဏီလီမိတက်)၏ မော်တော်ယာဉ် တပ်ဆင်ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း အဆိုပြုချက်အပေါ် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ဆုံးဖြတ်ချက်**

ရည်ညွှန်းချက် ။ Myanmar Brilliance Auto Company Limited (မြန်မာအဆင့်မြင့် ကားကုမ္ပဏီလီမိတက်) ၏ ၁၆-၁၀-၂၀၁၈ ရက်စွဲပါစာ

၁။ Myanmar Brilliance Auto Company Limited (မြန်မာအဆင့်မြင့်ကား ကုမ္ပဏီ လီမိတက်) မှ မြေကွက် အမှတ်-၂၄၆-M၊ မြေတိုင်းရပ်ကွက်အမှတ်- ဇုန်-၂ ၊ စက်မှု၊ လှိုင်သာယာ မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၂.၄၂၀ ဧကတွင် မော်တော်ယာဉ် တပ်ဆင် ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းအား ၂၀၁၈ ခုနှစ် ဒီဇင်ဘာလ ၇ ရက် နေ့တွင်ကျင်းပပြုလုပ်သော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၀/၂၀၁၈) ကြိမ်မြောက် အစည်းအဝေးသို့တင်ပြခဲ့ရာ ခွင့်ပြု ကြောင်းဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ၊ နည်းဥပဒေကို ကျင့်သုံးလျက် Myanmar Brilliance Auto Company Limited (မြန်မာအဆင့်မြင့်ကား ကုမ္ပဏီလီမိတက်)အား မော်တော်ယာဉ် တပ်ဆင် ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ ၁၂၈/၂၀၁၈ ကို ထုတ်ပေးလိုက်သည်။

၂။ Myanmar Brilliance Auto Company Limited (မြန်မာအဆင့်မြင့်ကား ကုမ္ပဏီ လီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် အောက်ပါအချက်များကို လိုက်နာဆောင်ရွက်ရမည်-

(က) Myanmar Brilliance Auto Company Limited (မြန်မာအဆင့်မြင့်ကား ကုမ္ပဏီလီမိတက်)အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၁၈)၊ ပုဒ်မ ၇၅၊ ၇၇၊ ၇၈ အရ ကင်းလွတ် ခွင့်နှင့် သက်သာခွင့်များကို ပြဋ္ဌာန်းထားသည့်အချက်များနှင့်အညီ ခံစားခွင့်ပြုနိုင်ရန် လျှောက်ထားနိုင်သည်။

(ခ) Myanmar Brilliance Auto Company Limited (မြန်မာအဆင့်မြင့်ကား ကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့်အရ **ထုတ်လုပ်မှုရည်မှန်းချက်များကိုအကောင်း ဆုံးအကောင်အထည်ဖော်** ဆောင်ရွက်ရမည်။

(ဂ) Myanmar Brilliance Auto Company Limited (မြန်မာအဆင့်မြင့်ကား ကုမ္ပဏီ လီမိတက်)အနေဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၆၅ နှင့် နည်းဥပဒေအခန်း (၂၁)တို့တွင် ပြဋ္ဌာန်းထားသည့် ရင်းနှီးမြှုပ်နှံသူ၏ တာဝန်ဝတ္တရားများနှင့်အညီ လိုက်နာ ဆောင်ရွက်ရမည်။

(ဃ) Myanmar Brilliance Auto Company Limited (မြန်မာအဆင့်မြင့်ကားကုမ္ပဏီလီမိတက်)သည် လုပ်ငန်းဆောင်ရွက်ရာတွင် သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနမှ ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း ဆိုင်ရာလုပ်ထုံးလုပ်နည်း၊ အမျိုးသား ပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့် အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီလိုက်နာဆောင်ရွက်ရမည်။

(င) Myanmar Brilliance Auto Company Limited (မြန်မာအဆင့်မြင့်ကားကုမ္ပဏီလီမိတက်)သည် ရင်းနှီးမြှုပ်နှံမှုအား လုပ်ငန်းသက်တမ်း ကာလအတွင်း အခြားပုဂ္ဂိုလ်တစ်ဦးဦးသို့ တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာလွှဲပြောင်းခြင်းနှင့် လုပ်ငန်းလွှဲပြောင်းခြင်းတို့ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၇၂ နှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၁ အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြရမည်။

(စ) Myanmar Brilliance Auto Company Limited (မြန်မာအဆင့်မြင့်ကားကုမ္ပဏီလီမိတက်)သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၆ အရ နှစ်စဉ်ဘဏ္ဍာရေးနှစ် ကုန်ဆုံးပြီးနောက် သုံးလအတွင်း သတ်မှတ်ချက်ပါ အသေးစိတ်များပါရှိသည့်နှစ်စဉ်အစီရင်ခံစာအား သတ်မှတ်ပုံစံဖြင့် ကုမ္ပဏီ၏ဝက်(ဘ်)ဆိုဒ် (သို့မဟုတ်) ကော်မရှင်ရုံး၏ ဝက်(ဘ်)ဆိုဒ်သို့ တင်ပြရမည်။

(ဆ) Myanmar Brilliance Auto Company Limited (မြန်မာအဆင့်မြင့်ကားကုမ္ပဏီလီမိတက်)သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၇ အရ လုပ်ငန်းဆောင်ရွက်နေစဉ်အတွင်း လုပ်ငန်းအစီရင်ခံစာကို သုံးလလျှင် တစ်ကြိမ် ကော်မရှင်က သတ်မှတ်တောင်းခံသည့် ပုံစံဖြင့်တင်ပြရမည်။

၃။ Myanmar Brilliance Auto Company Limited (မြန်မာအဆင့်မြင့်ကား ကုမ္ပဏီလီမိတက်)သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၆၅ (ဃ) အရ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့်အဖွဲ့အစည်းများမှ လိုင်စင်သို့မဟုတ် ခွင့်ပြုမိန့်ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ မှတ်ပုံတင်ရန် လိုအပ်လျှင်ဖြစ်စေ သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်နှင့်အညီ ဆောင်ရွက်ရမည်။

၄။ Myanmar Brilliance Auto Company Limited (မြန်မာအဆင့်မြင့်ကား ကုမ္ပဏီလီမိတက်)သည် အဆိုပြုလုပ်ငန်းကို အကောင်အထည်ဖော် ဆောင်ရွက်ရာတွင် လုပ်ငန်းသဘာဝ

အရဖြစ်စေ၊ အခြားလိုအပ်ချက်အရဖြစ်စေ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့် ရယူရန်လိုအပ်လျှင်ဖြစ်စေ၊ မှတ်ပုံတင်ရန်လိုအပ်လျှင်ဖြစ်စေ သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်များနှင့်အညီဆောင်ရွက်ပြီး မိတ္တူ (၅)စုံစီအား ကော်မရှင်သို့ ပေးပို့ရမည်။

(သောင်းထွန်း)
ဥက္ကဋ္ဌ

**Myanmar Brilliance Auto Company Limited**
**(မြန်မာအဆင့်မြင့်ကား ကုမ္ပဏီ လီမိတက်)**
**ဖြန့်ဝေခြင်း**

ပြည်ထဲရေးဝန်ကြီးဌာန
ပြည်ထောင်စုအစိုးရအဖွဲ့ရုံးဝန်ကြီးဌာန
ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေး ဝန်ကြီးဌာန
သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန
အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန
စက်မှုဝန်ကြီးဌာန
စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန
ရင်းနှီးမြှုပ်နှံမှုနှင့် နိုင်ငံခြားစီးပွားဆက်သွယ်ရေးဝန်ကြီးဌာန
ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး
ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ
ညွှန်ကြားရေးမှူးချုပ်၊ ကုန်းလမ်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများ မော်ကွန်းတိုက်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ အမှတ် ၁ အကြီးစားစက်မှုလုပ်ငန်း
ရန်ကုန်တိုင်းဒေသကြီးဦးစီးမှူးရုံး၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

ရက်စွဲ။ ၂၃-၁၁-၂၀၁၈

## Myanmar Brilliance Auto Company Limited နှင့် စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ/ ကုမ္ပဏီမှ တင်ပြသည့်ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုချက်တင်ပြလာခြင်း | ၁၆-၁၀-၂၀၁၈ | | |
| ၂ | လုပ်ငန်းလိုအပ်ချက်အရသယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာနသို့ သဘောထား တောင်းခံခြင်း | ၂၂-၁၀-၂၀၁၈ | ၁-၁၁-၂၀၁၈ | |
| | ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေး ဝန်ကြီးဌာနသို့ သဘောထား တောင်းခံခြင်း | ၂၆-၁၀-၂၀၁၈ | ၁၃-၁၁-၂၀၁၈ | |
| | စက်မှုဝန်ကြီးဌာနသို့ သဘောထား တောင်းခံခြင်း | ၂၆-၁၀-၂၀၁၈ | ၈-၁၁-၂၀၁၈ | |
| ၃ | ကုမ္ပဏီမှ လိုအပ်ချက်များ ပြန်လည်ပေးပို့ခြင်း | ၂၃-၁၁-၂၀၁၈ | | |
| ၄ | ကုမ္ပဏီသို့ လက်ခံကြောင်း ပြန်ကြားခြင်း | ၂၀-၁၁-၂၀၁၈ | | |
| ၅ | အဆိုပြုချက်အားကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | ၇-၁၂-၂၀၁၈ | | |
| | **စုစုပေါင်းကြာမြင့်ရက်** | (၅၂)ရက် | | |

ရက်စွဲ- ၂၀-၁၁-၂၀၁၈

## အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်ပြီးစီးမှု

**ကုမ္ပဏီအမည်** - Myanmar Brilliance Auto Company Limited

**လုပ်ငန်းအမျိုးအစား** - မော်တော်ယာဉ် တပ်ဆင် ထုတ်လုပ်ခြင်း ရောင်းချခြင်း

**PAT အကြိမ်/နေ့စွဲ**- ၃၃/၂၀၁၈ (၂၂-၁၀-၂၀၁၈)

| စဉ် | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အပေါ် ပြင်ဆင်ရန် အချက်များ | ဆောင်ရွက်ပြီးစီးမှု ပြီး(✓) မပြီး(x) | မှတ်ချက် |
|---|---|---|---|
| ၁ | မော်တော်ယာဉ် model တစ်မျိုးချင်းစီအတွက် ဓါတ်ပုံ ၄ ပုံစီ (ရှေ့၊ နောက်၊ ဝဲ၊ ယာ) model တစ်မျိုးချင်းစီအတွက် Assembling Drawing ၊ Certification အသေးစိတ် များ တင်ပြရန်။ | ✓ | |
| ၂ | စက်ရုံ Layout Plan ၊ တင်သွင်းမည့် Machine List ၊ Safety အတွက် Testing System အပြည့်အစုံ တင်ပြရန်။ | ✓ | |
| ၃ | Assembling ၊ Manufacturing အတွက် မိခင်ကုမ္ပဏီ၏ Authorization အထောက်အထား တင်ပြရန်။ | ✓ | |
| ၄ | မိခင်ကုမ္ပဏီ၏ Profile နှင့် Background တင်ပြရန်နှင့် မိခင်ကုမ္ပဏီနှင့် အဆိုပြု ကုမ္ပဏီတို့၏ လုပ်ငန်းအတွေ့အကြုံ များ တင်ပြရန်။ | ✓ | |
| ၅ | မော်တော်ယာဉ်ထုတ်လုပ်မှုအတွက် Brand အသုံးပြုခွင့်၊ နည်းပညာ အသုံးပြုခွင့်၊ ထုတ်လုပ်ခွင့်များနှင့် စပ်လျဉ်း၍ model တစ်ခုချင်းစီအတွက် လိုင်စင်အသုံးပြုခွင့် အထောက်အထားများ ခွဲခြားတင်ပြရန်။ | ✓ | |

အကြောင်းအရာ။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Brilliance Auto Company Limited တည်ထောင်ကာ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ မော်တော်ယာဉ် တပ်ဆင် ထုတ်လုပ် ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ

| | | | |
|---|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - Myanmar Brilliance Auto Company Limited | |
| | ရင်းနှီးမြှုပ်နှံသူ | - ဦးခင်မောင်စန်း | |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု | |
| | | - ဦးခင်မောင်စန်း (မြန်မာ) | ၆၀% |
| | | - ဦးမျိုးကျော် (မြန်မာ) | ၁၀% |
| | | - ဦးမင်းမင်းမောင် (မြန်မာ) | ၁၀% |
| | | - ဦးရန်မျိုးအောင် (မြန်မာ) | ၁၀% |
| | | - ဦးအောင်ဖုန်းမြင့် (မြန်မာ) | ၁၀% |
| | လုပ်ငန်းအမျိုးအစား | - မော်တော်ယာဉ် တပ်ဆင် ထုတ်လုပ် ရောင်းချခြင်း လုပ်ငန်း | |
| ၂။ | တည်နေရာ | - မြေကွက်အမှတ်-၂၄၆-M၊ မြေတိုင်းရပ်ကွက် အမှတ်- အပိုင်း-၂၊ စက်မှုမြို့၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး | |
| ၃။ | မြေပိုင်ရှင် | - ဦးခင်မောင်စန်း | |
| | မြေအကျယ်အဝန်း | - ၂.၄၂၀ ဧက (၉,၇၉၃.၄၀၁ စတုရန်းမီတာ) | |
| | အဆောက်အဦအရေအတွက်/ | - ၃ ထပ် အဆောက်အဦ ၃ လုံး | |
| | အကျယ်အဝန်း | - ၈၀ ပေ x ၁၈၀ ပေ | |
| ၄။ | တည်ဆောက်မှုကာလ | - ၁ နှစ် | |
| ၅။ | စုစုပေါင်းမတည်ငွေရင်း | - ကျပ် ၄,၁၇၇.၉၃၉ သန်း (အမေရိကန်ဒေါ်လာ ၀.၅၄၉ သန်း အပါအဝင်) | |

| | မြန်မာငွေ (ကျပ်သန်း) | US $ သန်း | စုစုပေါင်း (ကျပ်သန်း) |
|---|---|---|---|
| ငွေသား | ၃၂၉၆.၁၆၆ | - | ၃၂၉၆.၁၆၆ |
| စက်ပစ္စည်း (ပြည်ပ) | ၂၃.၀၀၀ | ၀.၄၁၁ | ၆၅၃.၅၅၀ |
| ရုံးသုံးပစ္စည်း(ပြည်တွင်း) | ၁၅.၁၅၀ | - | ၁၅.၁၅၀ |
| နမူနာတင်သွင်းမည့် မော်တော်ယာဉ်(ပြည်ပ) | - | ၀.၁၃၈ | ၂၁၃.၀၇၃ |
| **စုစုပေါင်း** | **၃,၃၃၄.၃၁၆** | **၀.၅၄၉** | **၄,၁၇၇.၉၃၉** |

| | | |
|---|---|---|
| ၆။ | ရောင်းချမည့်နည်းစနစ် | - ပြည်တွင်း ၁၀၀ % ရောင်းချမည် ဖြစ်ပါသည်။ |

| | | | |
|---|---|---|---|
| ၇။ | ထုတ်လုပ်မှုနှင့်ရောင်းဈေးနှုန်း | **ရောင်းချမှုအရေအတွက် (စီးရေ)** | **ရောင်းဈေးနှုန်း (ကျပ်သန်း/စီးရေ)** |
| | **အမျိုးအမည်** | | |
| | Brilliance Vehicles V-3 | ၆၀၀ | ၂၃.၀၀ |
| | Brilliance Vehicles V-6 | ၆၀ | ၃၅.၀၀ |
| | Brilliance Vehicles V-7 | ၆၀ | ၄၈.၀၀ |

၈။ အခြားတင်ပြချက်

| | ပြည်တွင်း | ပြည်ပ |
|---|---|---|
| **အရေအတွက်** | ၂၁၉ ဦး. | ၅ ဦး |
| **အမြင့်ဆုံးလစာ** | ကျပ် ၁,၀၀၀,၀၀၀ | US $ ၁,၀၀၀ |
| **အနိမ့်ဆုံးလစာ** | ကျပ် ၁၆၀,၀၀၀ | US $ ၈၀၀ |

- ၁ US$ = ၁၅၃၄ ကျပ် နှုန်းဖြင့် တွက်ချက်ထားပါသည်။
- ထုတ်လုပ်မည် မော်တော်ကားများအား တရုတ်ပြည်သူ့သမ္မတ နိုင်ငံမှ Brilliance Automobile Group Holdings Co., Ltd. ၏ **Brilliance Auto Brand** ဖြင့် ထုတ်လုပ်မည်ဖြစ်ပြီး ပြည်တွင်း၌ ၁၀၀% ဖြန့်ဖြူး ရောင်းချမည် ဖြစ်ပါသည်။
- တင်သွင်းမည့် စက်ပစ္စည်းများ၏ ဓာတ်ပုံများ၊ ထုတ်လုပ်မည့် မော်တော်ယာဉ် နမူနာပုံများနှင့် ထုတ်လုပ်မှုနည်းစဉ်တို့အား တင်ပြထားပါသည်။
- တရုတ်ပြည်သူ့သမ္မတ နိုင်ငံ၏ နည်းပညာအတိုင်း ဆောင်ရွက်မည် ဖြစ်ပြီး Brilliance Automobile Group Holdings Co., Ltd. နှင့် Myanmar Brilliance Auto Company Limited တို့ချုပ်ဆိုထားသည့် Technical License၊ Technical Support နှင့် Brand အသုံးပြုခွင့်များပါဝင်သည့် **Memorandum cf Understanding** (မူကြမ်း) အား တင်ပြထားပါသည်။
- ကုမ္ပဏီသည် တတိယနှစ်မှ စတင်၍ SKD မှ CKD စနစ်သို့ ပြောင်းလဲ လုပ်ဆောင်မည် ဖြစ်ပါကြောင်း၊ ပဥ္စမနှစ်မှ စတင်၍ Press Shop ၊ Welding Shop၊ Paint Shop များအတွက် အစိတ်အပိုင်းများကို ပြည်တွင်း၌ ထုတ်လုပ်ဆောင်ရွက် မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

| | | |
|---|---|---|
| ၁၀။ | စိစစ်တင်ပြချက် | - Inspection Certificate ၊ Localization Plan နှင့် Assembly Line ထားရှိမည့် အစီအမံများအား ရေးဆွဲ တင်ပြ ထားပါသည်။<br>- တရုတ်ပြည်သူ့သမ္မတနိုင်ငံမှ တင်သွင်းမည့် နမူနာမော်တော်ယာဉ် (၉) စီးအား ကျသင့်သည့် အခွန်အခများပေးဆောင်၍ တင်သွင်းမည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- ငွေကြေး အထောက်အထား အဖြစ် Myanmar Brilliance Auto Company Limited မှ ဦးခင်မောင်စန်း၊ ဦးရန်မျိုးအောင် နှင့် ဦးမင်းမင်းမောင်တို့သည် ရောဝတီဘဏ်တွင် ၉-၁၀-၂၀၁၈ ရက်စွဲဖြင့် ကျပ် ၈၇၀,၀၀၁,၀၀၀.၀၀ ရှိကြောင်း၊ ဦးခင်မောင်စန်းမှ Myanmar Oriental Bank Ltd. တွင် ၈-၁၀-၂၀၁၈ ရက်စွဲဖြင့် ကျပ် ၃၀၀,၁၀၃,၀၄၉.၂၂ရှိကြောင်းနှင့် ရောဝတီဘဏ်တွင် ၈-၁၀-၂၀၁၈ ရက်စွဲဖြင့် ကျပ် ၃၀၀,၀၀၀,၀၀၀.၀၀ ရှိကြောင်းနှင့် ဦးမင်းမင်းမောင်သည် ရိုးမဘဏ်တွင် ၈-၁၀-၂၀၁၈ ရက်စွဲဖြင့် ကျပ် ၄၁၃,၅၉၁,၀၂၂.၉၉ ရှိကြောင်း တင်ပြထားပါသည်။<br>- လုပ်ငန်းခွင်သာယာရေး အစီအစဉ်၊ မီးဘေးကာကွယ်ရေးအစီအစဉ်၊ ပတ်ဝန်းကျင် ထိန်းသိမ်း ကာကွယ်ရေး အစီအစဉ် နှင့် Corporate Social Responsibility (CSR) အတွက် နှစ်စဉ် အသားတင်အမြတ်ငွေ၏ ၃ % ထားရှိမည်ဖြစ်ကြောင်း တင်ပြ ထားပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေး မြှင့်တင်မည့် ကဏ္ဍတွင် ပါဝင်ပြီး ISIC 2910 တွင် အကျုံးဝင်ပါသည်။<br>- ထုတ်လုပ်မည့် မော်တော်ယာဉ်(၃)မျိုး၏ ကုန်ကြမ်းပစ္စည်းများအား SKD-2 သတ်မှတ်ချက်ပါ ပစ္စည်းအုပ်စု (၁၀) မျိုးဖြင့် တရုတ်ပြည်သူ့သမ္မတနိုင်ငံမှ တင်သွင်း ထုတ်လုပ်သွားမည်ဖြစ်ပါသည်။<br>- အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့မှ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)**နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) အစီရင်ခံစာရေးဆွဲ ဆောင်ရွက်ရန် သဘောထားပြန်ကြားထားပါသည်။ |

| | | |
|---|---|---|
| | | - မော်တော်ယာဉ် တပ်ဆင်ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းနှင့် စပ်လျဉ်း၍ လုပ်ငန်းလိုအပ်ချက်အရ **စက်မှုဝန်ကြီးဌာန၊ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာနများသို့ သဘောထား မှတ်ချက်တောင်းခံထားပြီး ယင်းဝန်ကြီးဌာနများမှ ကန့်ကွက်ရန် မရှိကြောင်း သဘောထားပြန်ကြားပြီးဖြစ်ပါသည်။** |

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက- ၃/ခ-၀၃၀/၂၀၁၈ (၁၉၇-ခ)
ရက်စွဲ ၊ ၂၀၁၈ ခုနှစ် နိုဝင်ဘာလ ၂၈ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Brilliance Auto Company Limited မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ မော်တော်ယာဉ် တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံသား ဦးခင်မောင်စန်း မှ ၆၀%၊ ဦးမျိုးကျော်မှ ၁၀%၊ ဦးမင်းမင်းမောင်မှ ၁၀%၊ ဦးရန်မျိုးအောင်မှ ၁၀% နှင့် ဦးအောင်ဖုန်းမြင့်မှ ၁၀ % ထည့်ဝင်၍ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Brilliance Auto Company Limited မှ မြေကွက်အမှတ်-၂၄၆-M၊ မြေတိုင်းရပ်ကွက်အမှတ်- အပိုင်း-၂၊ စက်မှုမြို့၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၂.၄၂၀ ဧက (၉,၇၉၃.၄၀၁ စတုရန်းမီတာ) တွင် မော်တော်ယာဉ် တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအားမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူမြေဆိုင်ရာအထောက်အထားများ၊တရုတ်ပြည်သူ့သမ္မတနိုင်ငံ Brilliance Automobile Group Holdings Co., Ltd. နှင့် Myanmar Brilliance Auto Company Limited တို့ချုပ်ဆိုထားသည့် Technical License၊ Technical Support နှင့် Brand အသုံးပြုခွင့်များပါဝင်သည့် Memorandum of Understanding (မူကြမ်း) တင်သွင်းမည့် စက်ပစ္စည်းများ၏ ဓာတ်ပုံများ၊ ထုတ်လုပ်မည့် မော်တော်ယာဉ် နမူနာပုံများနှင့် ထုတ်လုပ်မှုနည်းစဉ်များအား ပူးတွဲ တင်ပြထားပါသည်။

၃။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ ကျပ် ၄,၁၇၇.၉၃၉ သန်း (US$ ၀.၅၄၉ သန်း အပါအဝင်) ဖြစ်ပါသည်။ မတည်ငွေရင်း ထည့်ဝင်မှုများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | ကျပ် (သန်း) |
|---|---|
| ငွေသား | ၃,၂၉၆.၁၆၆ |
| စက်ပစ္စည်း (ပြည်ပ) | ၆၅၃.၅၅၀ (US$ ၀.၄၁၁ သန်းနှင့်ညီမျှသော) |
| ရုံးသုံးပစ္စည်း (ပြည်တွင်း) | ၁၅.၁၅၀ |
| နမူနာတင်သွင်းမည့် မော်တော်ယာဉ် (ပြည်ပ) | ၂၁၃.၀၇၃ (US$ ၀.၁၃၈ သန်း နှင့်ညီမျှသော) |
| **စုစုပေါင်း** | **၄,၁၇၇.၉၃၉** (US$ ၀.၅၄၉ သန်း အပါအဝင်) |

ကန့်သတ်

၄။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းမှ ဝန်ထမ်း ၂၁၉ ဦး နှင့် ပြည်ပဝန်ထမ်း ၅ ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၆၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာကျပ် ၁,၀၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာUS$ ၈၀၀ နှင့် အမြင့်ဆုံးလစာမှာ US$ ၁,၀၀၀ဖြစ်ပါသည်။

၅။ လုပ်ငန်းမှထွက်ရှိသော မော်တော်ယာဉ်များကို ပြည်တွင်း၌ ၁၀၀% ရောင်းချမည်ဖြစ်ပြီး ထုတ်လုပ်မှုအရေအတွက်နှင့် ရောင်းဈေးနှုန်းများအား အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအစား | ရောင်းချမှုအရ အတွက်(စီးရေ) | ရောင်းဈေးနှုန်း (ကျပ်သန်း/စီးရေ) |
|---|---|---|---|
| (က) | Brilliance Vehicles V-3 | ၆၀၀ | ၂၃.၀၀ |
| (ခ ) | Brilliance Vehicles V-6 | ၆၀ | ၃၅.၀၀ |
| (ဂ ) | Brilliance Vehicles V-7 | ၆၀ | ၄၈.၀၀ |

၆။ အဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ **ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့မှ** ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) အစီရင်ခံစာရေးဆွဲ ဆောင်ရွက်ရန် သဘောထားပြန်ကြားထားပါသည်။

၇။ မော်တော်ယာဉ်တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းနှင့်စပ်လျဉ်း၍ လုပ်ငန်းလိုအပ်ချက်အရ **စက်မှုဝန်ကြီးဌာန၊ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာနများသို့ သဘောထား မှတ်ချက်တောင်းခံထားပြီး ယင်းဝန်ကြီးဌာနများမှ ကန့်ကွက်ရန်မရှိကြောင်း** သဘောထားပြန်ကြားပြီးဖြစ်ပါသည်။

၈။ ငွေကြေးအထောက်အထားအဖြစ် Myanmar Brilliance Auto Company Limited မှ ဦးခင်မောင်စန်း၊ ဦးရန်မျိုးအောင်နှင့် ဦးမင်းမင်းမောင်တို့သည် ရောဝတီဘဏ်တွင် ၉-၁၀-၂၀၁၈ ရက်စွဲဖြင့် ကျပ် ၈၇၀,၀၀၁,၀၀၀.၀၀ ရှိကြောင်း၊ ဦးခင်မောင်စန်းမှ Myanmar Oriental Bank Ltd. တွင် ၈-၁၀-၂၀၁၈ ရက်စွဲဖြင့် ကျပ် ၃၀၀,၁၀၃,၀၄၉.၂၂ ရှိကြောင်းနှင့် ရောဝတီဘဏ်တွင် ၈-၁၀-၂၀၁၈ ရက်စွဲဖြင့် ကျပ် ၃၀၀,၀၀၀,၀၀၀.၀၀ ရှိကြောင်းနှင့် ဦးမင်းမင်းမောင်သည် ရိုးမဘဏ်တွင် ၈-၁၀-၂၀၁၈ ရက်စွဲဖြင့် ကျပ် ၄၁၃,၅၉၁,၀၂၂.၉၉ ရှိသည့် အထောက်အထားများအား တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၉။ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာ ဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) စက်ရုံ၌ အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်နှင့် Corporate Social Responsibility (CSR) အစီအစဉ်များကိုလည်း တင်ပြထားပါသည်။

(ဂ) ၂၀၁၈ ခုနှစ် အောက်တိုဘာလ ၂၂ ရက်နေ့တွင် ကျင်းပသော အဆိုပြုချက်စိစစ်ရေး အဖွဲ့၏ ၃၃/၂၀၁၈ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီး အစည်းအဝေး ဆုံးဖြတ်ချက်နှင့်အညီ ကုမ္ပဏီမှ ပြည့်စုံစွာ ပြင်ဆင် တင်ပြထားပါသည်။

(ဃ) ထုတ်လုပ်မည့် မော်တော်ယာဉ် အမျိုးအစား(၃)မျိုး၏ ကုန်ကြမ်းပစ္စည်းများအား SKD-2 သတ်မှတချက်ပါပစ္စည်း အုပ်စု(၁၀)မျိုးဖြင့် တင်သွင်းထုတ်လုပ်သွားမည် ဖြစ်ကြောင်း တင်ပြ ထားပါသည်။

(င) ကုမ္ပဏီသည် တတိယနှစ်မှ စတင်၍ SKD မှ CKD စနစ်သို့ ပြောင်းလဲ လုပ်ဆောင် မည်ဖြစ်ပါကြောင်း၊ ပဉ္စမနှစ်မှ စတင်၍ Press Shop ၊ Welding Shop၊ Paint Shop များအတွက် အစိတ်အပိုင်းများကို ပြည်တွင်း၌ ထုတ်လုပ်ဆောင်ရွက်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

(စ) ထုတ်လုပ်မည့် မော်တော်ကားများအား တရုတ်ပြည်သူ့သမ္မတနိုင်ငံမှ Brilliance Automobile Group Holdings Co., Ltd. ၏ **Brilliance Auto Brand** ဖြင့် ထုတ်လုပ်မည်ဖြစ်ပြီး ပြည်တွင်း၌ ၁၀၀% ဖြန့်ဖြူး ရောင်းချမည်ဖြစ်ကြောင်း တင်ပြ ထားပါသည်။

(ဆ) တရုတ်နိုင်ငံ Brilliance Automobile Group Holdings Co., Ltd. မှ နည်းပညာရယူဆောင်ရွက်မည်ဖြစ်ပြီး Myanmar Brilliance Auto Company Limited နှင့်ချုပ်ဆိုထားသည့် Memorandum of Understanding (မူကြမ်း) ၊ တပ်ဆင်ထုတ်လုပ်မှုအတွက် Authorization Letter များအားတင်ပြထား ပါသည်။

(ဇ) ပြည်ပမှ တင်သွင်းမည့် နမူနာ မော်တော်ယာဉ် (၉) စီးအား ကျသင့်သည့် အခွန်အခ များပေးဆောင်၍ တင်သွင်းမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၀။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Brilliance Auto Company Limited မှ မော်တော်ယာဉ် တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိုစွနှင့်စပ်လျဉ်း၍ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

ရင်းနှီးမြှုပ်နှံမှုဥာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁(၆၈/၁၈)
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ နိုဝင်ဘာလ ၁ ရက်

M.1010
2011018

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Myanmar Brilliance Auto Company Limited မှ SKD စနစ်ဖြင့် မော်တော်ယာဉ်အမျိုးမျိုးတပ်ဆင်ခြင်း၊ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၂-၁၀-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက-၃/ခ-၀၃၀/၂၀၁၈(၁၈၆)

၁။ မြန်မာနိုင်ငံသား ဦးခင်မောင်စန်းမှ ၆၀%၊ ဦးမျိုးကျော်မှ ၁၀%၊ ဦးမင်းမင်းမောင် ၁၀%၊ ဦးရန်မျိုးအောင်မှ ၁၀% နှင့် ဦးအောင်ဖုန်းမြင့်မှ ၁၀% ထည့်ဝင်၍ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Brilliance Auto Company Limited မှ မြေကွက်အမှတ်၊ ၂၄၆/အမ်၊ မြေတိုင်းရပ်ကွက်အမှတ်၊ အပိုင်း-၂၊ စက်မှုမြို့၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၂.၄၂၀ ဧက (၉,၇၉၃.၄၀၁ စတုရန်းမီတာ) တွင် SKD စနစ်ဖြင့် မော်တော်ယာဉ်အမျိုးမျိုး တပ်ဆင်ခြင်း၊ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသော အဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၃၀) နှစ်ဖြစ်ပြီး၊ တည်ဆောက်ရေးကာလမှာ (၁) နှစ် ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအားမြေ (၉,၇၉၃.၄၀၁ စတုရန်းမီတာ) ပေါ်တွင်ရှိသော အထပ် (၃) ထပ်ပါ ရုံးခန်းအဆောက်အဦး (၁) လုံးနှင့် (၈၀ပေx၁၈၀ပေ) ရှိအဆောက်အဦ (၂) လုံး၊ စုစုပေါင်း အဆောက်အဦ (၃) လုံးကို ငှားရမ်း၍ လိုအပ်သော ပြင်ဆင်မှုများ ပြုလုပ်ကာ လုပ်ငန်းဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) ထုတ်လုပ်မှုအနေဖြင့် ပထမနှစ်တွင် Brilliance Vehicles V-3 အမျိုးအစားယာဉ် (၆၀၀) စီး၊ Brilliance Vehicles V-6 အမျိုးအစားယာဉ် (၆၀) စီး၊ Brilliance Vehicles V-7 အမျိုးအစားယာဉ် (၆၀) စီး၊ စုစုပေါင်း (၇၂၀) စီး နှင့် (၁၀) နှစ်အတွင်း Brilliance Vehicles V-3 အမျိုးအစားယာဉ် (၆၄၉) စီး၊ Brilliance Vehicles V-6 အမျိုးအစားယာဉ် (၆၄) စီး၊ Brilliance Vehicles V-7 အမျိုးအစားယာဉ် (၆၄) စီး၊ စုစုပေါင်း (၇၇၇) စီး တိုးမြှင့်ထုတ်လုပ်မည်ဖြစ်ကာ ပထမ (၅) နှစ်အတွင်း SKD စနစ်

ဖြင့်လည်းကောင်း ဒုတိယ (၅) တွင် လိုအပ်သော အခြေခံပစ္စည်းများကို ပြည်တွင်း၌ ဝယ်ယူ၍ CKD စနစ်ဖြင့် လည်းကောင်း လုပ်ငန်းဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဃ) အဆိုပြုလုပ်ငန်းမှ အဆင့်မြင့် နည်းပညာများ လေ့လာဆည်းပူးနိုင်ရန် ဝန်ထမ်းများအား ပြည်တွင်း၊ ပြည်ပသင်တန်းများပို့ချပေးရန် ရည်ရွယ်ထားပြီး အာဆီယံဒေသတွင်း အဆင့်မြင့်နည်းပညာများရရှိပါက မိမိတို့ထုတ်ကုန်ကို ပြည်ပသို့ တင်ပို့နိုင်သည်အထိ ကြိုးပမ်းဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(င) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(စ) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၃%) ကိုလူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(ဆ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး/လုပ်နည်း၊ အမိန့်နှင့်ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်သွားမည်ဖြစ် ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) Myanmar Brilliance Auto Company Limited မှ SKD စနစ်ဖြင့် မော်တော်ယာဉ်အမျိုးမျိုးတပ်ဆင်ခြင်း၊ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အဆောက်အဦများ ပြုပြင်တည်ဆောက်ရာ၌ မြေပြုပြင်ခြင်းနှင့် ဆောက်လုပ်ရေးလုပ်ငန်းခွင်မှထွက်ရှိလာမည့် ဖုန်မှုန့်များ၊ တုန်ခါမှုများ၊ လုပ်ငန်းသုံးယာဉ်/ယန္တရားများမှ ထွက်ရှိလာမည့် စက်ဆီ၊ ချောဆီ၊ အခိုးအငွေ့များကြောင့် အနီးပတ်ဝန်းကျင်ရှိ လေထု၊ မြေထုနှင့် ရေထုညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း၊

(ခ) ဂဟေဆော်ခြင်းနှင့် စက်ပစ္စည်းကိရိယာများမှ ထွက်ရှိလာမည့် အခိုး၊ အငွေ့၊ အနံ့အသက်များနှင့် ဆေးမှုတ်ခြင်းလုပ်ငန်းများမှ ထွက်ရှိလာမည့် အနံ့အသက်များကြောင့် လေထုညစ်ညမ်းခြင်း၊ လုပ်ငန်းခွင် လုပ်သားများတွင် မျက်စေ့နှင့် အသက်ရှုလမ်းကြောင်းဆိုင်ရာရောဂါများဖြစ်ပွားစေနိုင်ပြီး ပတ်ဝန်းကျင်ရှိပြည်သူလူထုကို အနှောင့်အယှက် ဖြစ်စေနိုင်ခြင်း၊

(ဂ) အလုပ်ရုံမှထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများဖြစ်သော စွန့်ပစ်အရည်/ အစိုင်အခဲများနှင့်ဝန်ထမ်းများ၏ မိလ္လာစွန့်ပစ်ပစ္စည်းများ၊ အရည်များကြောင့် ပတ်ဝန်းကျင် ညစ်ညမ်းစေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

(ဃ) ထုတ်လုပ်မှု လုပ်ငန်းအဆင့်ဆင့်နှင့် ပြုပြင် တပ်ဆင်ခြင်းလုပ်ငန်း အဆင့်ဆင့်တွင်စက်ပစ္စည်းများ အသုံးပြု ဆောင်ရွက်ရသဖြင့် စက်ယန္တရားများ၏ စွန့်ပစ်ပစ္စည်းများဖြစ်သည့် စက်သုံးဆီ၊ ချောဆီများနှင့် ဆူညံသံများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုနှင့် အသံညစ်

ညမ်းမှုဖြစ် ပေါ်နိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Myanmar Brilliance Auto Company Limited မှ SKD စနစ်ဖြင့် မော်တော်ယာဉ်အမျိုးမျိုးတပ်ဆင်ခြင်း၊ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာဆောင်ရွက်ရမည့်လုပ်ငန်းများကိုအောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသားတင်အမြတ်ငွေ၏ ၃% ကိုအသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကိုတိတိကျကျ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့်အညီ ပြုစု ဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရစီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း **(Environmental Impact Assessment-EIA)** မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့် တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာနှင့်ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်သွားမည့် လုပ်ငန်းတစ်ခုချင်းအလိုက် လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်း သိမ်းရေးဝန်ကြီးဌာနသို့တင်ပြ အတည်ပြုချက်ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကိုဆောင်ရွက်ပြီးသယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေး မည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများ အတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း ဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက် ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သောပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက် ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင် ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍တစ်ပါတည်း တင်ပြရန်၊

(ဇ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ဆန္ဒနှင့် သဘောထားများကိုလည်း ရယူ ဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

၃၄ ၉
12/11/18

NPI-4274
9.11.18
M-1026
13.12.18

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၁၃- စမ(၂) ၂၀၁၈-၂၀၁၉(၄၅၂)
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ နိုဝင်ဘာလ ၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၆.၁၀.၂၀၁၈ ရက်စွဲပါ စာအမှတ်၊ မရက - ၃ / ခ - ၀၃၀ / ၂၀၁၈ (၁၈၇)

၁။ Myanmar Brilliance Auto Company Limited မှ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ စက်မှုမြို့၊ မြေတိုင်းရပ်ကွက်အမှတ်- အပိုင်း-၂၊ မြေကွက်အမှတ်-၂၄၆-အမ်ရှိ မြေဧရိယာ(၂.၄၂)ဧကတွင် SKD စနစ်ဖြင့် မော်တော်ယာဉ်အမျိုးမျိုးတပ်ဆင်ခြင်း၊ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် စက်မှုဝန်ကြီးဌာနမှ သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းအကြောင်းကြားခဲ့ပါသည်။

၂။ အဆိုပါ ကုမ္ပဏီမှ ဆောင်ရွက်မည့် လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) Myanmar Brilliance Auto Company Limited သည် (၁၀၀%) မြန်မာနိုင်ငံသားပိုင် ကုမ္ပဏီဖြစ်ပြီး၊ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာ (၀.၅၄၉၉၅ )သန်း အပါအဝင် ကျပ် ( ၄၁၇၇.၉၃၉၃ )သန်းဖြစ်ပါသည်။

(ခ) Brilliance Vehicle V3၊ Brilliance Vehicle V6၊ Brilliance Vehicle V7 အမျိုးအစား( ၃ )မျိုးအား SKD စနစ်ဖြင့် တပ်ဆင်ထုတ်လုပ်မည်ဖြစ်ပြီး (၁၀၀%) Local Sale ဖြစ်ပါသည်။

(ဂ) ကုမ္ပဏီမှတင်သွင်းမည့် Raw Material Statement အရ( ၁၀ )နှစ်စာအတွက် တင်ပြထားပြီး၊ ပထမနှစ်တွင် V3 မော်တော်ယာဉ်( ၆၀၀ )စီး၊ V6 မော်တော်ယာဉ်( ၆၀ )စီး နှင့် V7 မော်တော်ယာဉ် ( ၆၀ )စီး၊ စုစုပေါင်း( ၇၂၀ )စီး စတင်ထုတ်လုပ်မည်ဖြစ်ပြီး၊ ဒုတိယနှစ်မှ စတုတ္ထနှစ်အထိ နှစ်စဉ်( ၁၄ )စီးစီ တိုးမြှင့်

ခြင်းနှင့် ကျန်နှစ်များတွင် အစီးရေ ( ၇၇၇ )စီးစီ တစ်ပြေးညီ ထုတ်လုပ်သွားမည် ဖြစ်ပါသည်။

(ဃ) Brilliance Vehicle ၏ Country of Origin မှာ China ဖြစ်ပြီး၊ လိုအပ်သည့် Raw Materialများကို China မှ တင်သွင်းမည်ဖြစ်၍ Localization Plan အား သီးခြားဆောင်ရွက်မည့် အစီအစဉ်ဖော်ပြထားခြင်းမရှိဘဲ Battery တစ်မျိုးတည်းကိုသာ ပြည်တွင်းမှ အသုံးပြုမည်ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

( င ) ကုမ္ပဏီမှ ထုတ်လုပ်မည့် V3, V6 နှင့် V7 Series Brilliance Vehicle ယာဉ်များအတွက် ကုန်အမှတ်တံဆိပ် မူပိုင်ခွင့်အား မူလကုမ္ပဏီ၏ ခွင့်ပြုချက် ( Authorization Letter ) လိုအပ်မည် ဖြစ်ပါသည်။

( စ ) မော်တော်ယာဉ်တပ်ဆင်ထုတ်လုပ်မည့် မြေဧရိယာသည် မြေ( ၂.၄၂၀ )ဧကရှိသဖြင့် လက်ရှိမော်တော်ယာဉ်ထုတ်လုပ်သည့် ကုမ္ပဏီများ၏ မြေဧရိယာအကျယ်အဝန်းနှင့် နှိုင်းယှဉ်ပါက သိသိသာသာကွာခြားမှုမရှိသော်လည်း၊ ထုတ်လုပ်ပြီးယာဉ်များအား စမ်းသပ်နိုင်ရန် Road Test အတွက် ဖော်ပြထားခြင်းမရှိကြောင်း စိစစ်တွေ့ရှိရပါသည်။ ၎င်းမြေကွက်ပေါ်ရှိ ( ၈၀ ပေ × ၁၈၀ ပေ ) အဆောက်အဦ ( ၃ )လုံးတွင် Model ( ၁ )မျိုးစီအတွက် ထုတ်လုပ်နိုင်သည် ( သို့မဟုတ် ) Model ( ၃ )မျိုးလုံးအား တစ်နေရာတည်းတွင် Assembly ပြုလုပ်နိုင်သည် စသည်တို့အား စိစစ်နိုင်ရန်အတွက် Factory Layout Plan နှင့် Installation Plan များအား Actual Layout Plan နှင့် Drawing များ ပြည့်စုံစွာ ဖော်ပြရန် လိုအပ်မည်ဖြစ်ပါသည်။

(ဆ) ပြည်တွင်း ဝန်ထမ်းအင်အား ( ၂၁၉ )ဦးနှင့် ပြည်ပမှ နိုင်ငံခြားသား( ၅ )ဦးတို့အား ခန့်အပ်၍ လုပ်ငန်းစတင်မည်ဟု ဖော်ပြထားသော်လည်း Technology Transfer အတွက် ဆောင်ရွက်မည့်အစီအစဉ်များအား ဖော်ပြထားမှုမရှိကြောင်း စိစစ်တွေ့ရှိရပါသည်။

( ဇ ) Process Planning အနေဖြင့် Trim Line ၊ Finish Line နှင့် Test Line တို့ဖြင့် ဆောင်ရွက်မည်ဖြစ်ပြီး ထုတ်လုပ်ပြီးယာဉ်များအား စမ်းသပ်စစ်ဆေးနိုင်ရန် Testing Equipment များ၏ အမျိုးအမည် Specification များ၊ မူရင်းကုမ္ပဏီမှ

Inspection Certificate များနှင့် QC Certification များကို ပူးတွဲတင်ပြရန် လိုအပ်ပါသည်။

(ဈ) တည်ဆောက်ရေးကာလအား ( ၁ )နှစ်ဖြင့် အဆိုပြုတင်ပြထားသဖြင့် သတ်မှတ်ကာလအတွင်း တည်ဆောက်ရေးလုပ်ငန်းများပြီးစီးရန်နှင့် ကုမ္ပဏီမှ အဆိုပြုထားသည့် အဆိုပြုချက်များအတိုင်း အမှန်တကယ်ဆောင်ရွက်သွားရန် လိုအပ်ပါသည်။

(ည) ထုတ်လုပ်မည့် မော်တော်ယာဉ်( ၃ )မျိုးသည် ဘေးကင်းလုံခြုံရေး၊ အရည်အသွေးကောင်းမွန်မှန်ကန်မှုရှိစေရေးနှင့် သဘာဝပတ်ဝန်းကျင် ကာကွယ်ထိန်းသိမ်းနိုင်ရေး ဦးတည်ဆောင်ရွက်ရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ Myanmar Brilliance Auto Company Limited မှ SKD စနစ်ဖြင့် မော်တော်ယာဉ် အမျိုးမျိုးတပ်ဆင်ခြင်း၊ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ အထက်ဖော်ပြပါ လိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်သွားမည်ဆိုပါက ဤဝန်ကြီးဌာနအနေဖြင့် **ကန့်ကွက်ရန်မရှိပါကြောင်း** ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ကိုကိုလွင်၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို

အမှတ်(၁)အကြီးစားစက်မှုလုပ်ငန်း

မျှောစာတွဲ

ရုံးလက်ခံ

၁၆/၁၃/၁၁/၁၈

NPI_4336 15.11.18

M.1041 19/11/18

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန
# ဝန်ကြီးရုံး

စာအမှတ်၊ ရထ-၂/ရန (MIC)/၂၀၁၈( ၃၃၁၀ )

ရက် စွဲ၊ ၂ ၀ ၁ ၈ ခုနှစ်၊ နိုဝင်ဘာလ ၁၃ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၈ ခုနှစ်၊ အောက်တိုဘာလ (၂၆) ရက်စွဲပါ စာအမှတ်၊ မရက-၃/ခ-၀၃၀/၂၀၁၈(၁၈၈)

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Brilliance Auto Company Limited မှ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ စက်မှုမြို့ရှိ မြေဧရိယာ ၂.၄၂၀ ဧက (၉,၇၉၃.၄၀၁ စတုရန်းမီတာ) တွင် SKD စနစ်ဖြင့် မော်တော်ယာဉ်အမျိုးမျိုးတပ်ဆင်ခြင်း၊ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာပါသည်။

၂။ အဆိုပါကိစ္စနှင့် ပတ်သက်၍ Myanmar Brilliance Auto Company Limited သည် မော်တော်ယာဉ်အမျိုးမျိုး တပ်ဆင်ခြင်း၊ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းဖြင့် Brilliance Vehicles V-3, V-6 နှင့် V-7 ယာဉ်များအား SKD စနစ်ဖြင့် တပ်ဆင်ထုတ်လုပ်မည် ဖြစ်ပါကြောင်းနှင့် တပ်ဆင်ထုတ်လုပ်မည့် Brilliance Vehicles V-3, V-6 နှင့် V-7 ယာဉ်များ၏ Specifications အား ဖော်ပြထားခြင်းမရှိသော်လည်း ပူးတွဲပါဝင်သော ယာဉ်ဓာတ်ပုံများအရ လူစီးယာဉ်ငယ်များဖြစ်ကြောင်း တွေ့ရှိရပါသည်။

၃။ SKD စနစ်ဖြင့် မော်တော်ယာဉ်တပ်ဆင်ထုတ်လုပ်ခြင်းအတွက် ပြည်တွင်းကုမ္ပဏီများ အနေဖြင့် မော်တော်ယာဉ်များ ထုတ်လုပ်ရာတွင် အောက်ဖော်ပြပါ အချက်များအား လိုက်နာဆောင်ရွက်ရမည် ဖြစ်ပါသည်-

(က) Asean Motor Vehicle Requirement Standard ဖြစ်ရပါမည်။

(ခ) မြန်မာနိုင်ငံသည် လက်ယာကပ်မောင်းစနစ်ကျင့်သုံးပါသဖြင့် Road Safety ဖြစ်စေရေး အတွက် ယာဉ်ကြောစနစ်နှင့် ကိုက်လျော့ညီထွေဖြစ်စေမည့် လက်ဝဲဘက်စတီယာရင်မောင်းစနစ် (Left Hand Drive) ယာဉ်များသာ ထုတ်လုပ်ရပါမည်။

(ဂ) ထုတ်လုပ်မည့် မော်တော်ယာဉ်၏ အမျိုးအမည်၊ အမျိုးအစားအတွက် ပုံစံအတည်ပြု သတ်မှတ်ရရှိပြီးဖြစ်ရမည်ဖြစ်ပြီး ထုတ်လုပ်မည့် မော်တော်ယာဉ်နှင့်ပတ်သက်သည့် Specification များပြည့်စုံစွာ ဖော်ပြရမည် ဖြစ်ပါသည်။

(ဃ) အများပြည်သူဆိုင်ရာလမ်းများပေါ်တွင် အန္တရာယ်ကင်း၍ လုံခြုံစိတ်ချစွာ မောင်းနှင် အသုံးပြုနိုင်ရေးအတွက် မော်တော်ယာဉ်စမ်းသပ်စစ်ဆေးသည့် အလုပ်ရုံ (Vehicle Testing Workshop) တွင်ရှိသော Test Lane ဖြင့် ယာဉ်ကြံ့ခိုင်မှုစစ်ဆေးပြီး အောင်မြင်သည့် ယာဉ်များကိုသာ ဈေးကွက်အတွင်းသို့ ဖြန့်ဖြူးရောင်းချရမည် ဖြစ်ပါသည်။

၄။ တပ်ဆင်ထုတ်လုပ်ပြီးသော ယာဉ်များကို စက်မှုဝန်ကြီးဌာနမှ ထုတ်ပေးသည့် Certificate of Approval (CoA) ဖြင့် ကနဦး မှတ်ပုံတင် ဆောင်ရွက်ပေးရန်နှင့် အစီး (၁၀၀) ပြည့်မြောက်ပြီးနောက် ပုံမှန်ဆက်လက်ထုတ်ပေးသည့် မော်တော်ယာဉ်များကို သက်ဆိုင်ရာကုမ္ပဏီ၏ Inspection Certificate (IC) ဖြင့်သာ ဆက်လက် ဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ပါသည်။

၅။ ကုန်းလမ်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာနအနေဖြင့် SKD စနစ်ဖြင့် ထုတ်လုပ်သည့် မော်တော်ယာဉ်များကို ကနဦးမှတ်ပုံတင် ဆောင်ရွက်ပါက အောက်ဖော်ပြပါအထောက်အထားများ ရယူစိစစ်မည် ဖြစ်ပါသည် -

(က) Letter OF Authorization From Origin Co.,Ltd.

(ခ) QC would be signed by Origin Co.,Ltd.

(ဂ) Both Our Inspectors (Engineers)

(ဃ) Vehicle Identification (VIN Plates)

(င) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ မော်တော်ယာဉ်အမျိုးအစားအလိုက် ထုတ်လုပ်ခွင့်ပြုချက်မိတ္တူ

(စ) Inspection Certificate မူရင်း+ မိတ္တူ

(ဆ) ပိုင်ရှင်လျှောက်လွှာ

(ဇ) ဓါတ်ပုံပါစိစစ်ရေးကတ် မူရင်း + မိတ္တူ

၆။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံ၏မော်တော်ယာဉ်ထုတ်လုပ်မှုကဏ္ဍသည် ပြည်တွင်းတွင် မော်တော်ယာဉ်တစ်စီး ပြည့်စုံစွာထုတ်လုပ်သည့် အဆင့်မဟုတ်ဘဲ ပြည်ပတွင်ထုတ်လုပ်ပြီးဖြစ်သည့် မော်တော်ယာဉ်အစိတ်အပိုင်းများကို မှာယူတင်သွင်း၍ ပြန်လည်တပ်ဆင်သည့် SKD စနစ်သာဖြစ်သေးခြင်း၊ မော်တော်ယာဉ်ထုတ်လုပ်ခြင်းလုပ်ငန်းများအား ပုဂ္ဂလိကကဏ္ဍမှ စတင်ဆောင်ရွက်နေသည်မှာ မကြာမြင့်သေးခြင်းတို့ကြောင့် Self Certification စနစ်ပုံစံမျိုး သက်ဆိုင်ရာကုမ္ပဏီ၏ Inspection Certificate (IC) ဖြင့် မော်တော်ယာဉ်များ ထုတ်လုပ်ခွင့်ပြုခြင်းတွင် ထုတ်လုပ်ပြီးသည့် ယာဉ်အသစ်များအား Safety

Standard နှင့် ကိုက်ညီမှုရှိ/ မရှိ စိစစ်ရန်အတွက် ထုတ်လုပ်ခွင့်ပြုသည့် စက်မှုဝန်ကြီးဌာန၏ ထောက်ခံချက်လိုအပ်မည်ဖြစ်ပြီး ဦးဆောင်မှုပြုလုပ်နေသော စက်မှုဝန်ကြီးဌာန၏ အကြံပြုချက်များကို အခြေခံစဉ်းစားလုပ်ဆောင်သင့်ပါကြောင်းနှင့် အထက်ဖော်ပြပါ သတ်မှတ်ချက်များနှင့် ကိုက်ညီပါက မော်တော်ယာဉ်တပ်ဆင်ထုတ်လုပ်ခွင့်ပြုသင့်ပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
ဝင်းခန့်-အမြဲတမ်းအတွင်းဝန်

မိတ္တူကို

ကုန်းလမ်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာန

ရုံးလက်ခံ

မျှောစာတွဲ

ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အတွင်း
မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန်
ရင်းနှီးမြှုပ်နှံလိုသူ၏ဆောင်ရွက်ရန်

အဆိုပြုချက်

**မြန်မာအဆင့်မြင့်ကား ကုမ္ပဏီလီမိတက်**

* * * * * * * * * * * * * * * *

PROPOSAL OF THE INVESTOR TO MAKE
MYANMAR CITIZENS INVESTMENT IN THE REPUBLIC
OF THE UNION OF MYANMAR.

**MYANMAR BRILLIANCE AUTO COMPANY LIMITED**

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
**အဆိုပြုချက်စိစစ်ရေးအဖွဲ့**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☎ ၀၁-၆၅၈၁၂၈
🖷 -၀၁-၆၅၈၁၄၁

စာအမှတ် ၊ မရက-၃/ခ-၀၃၀/၂၀၁၈( ၁၉၆၀ )
ရက်စွဲ ၊ ၂၀၁၈ ခုနှစ် အောက်တိုဘာလ ၃၁ ရက်

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Brilliance Auto Company Limited မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ SKD စနစ်ဖြင့် မော်တော်ယာဉ်အမျိုးမျိုးတပ်ဆင်ခြင်း၊ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်းကိစ္စ**

ရည်ညွှန်းချက်။ Myanmar Brilliance Auto Company Limited ၏ ၂၀၁၈ ခုနှစ် အောက်တိုဘာလ ၁၆ ရက်စွဲပါစာ

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Brilliance Auto Company Limited မှ SKD စနစ်ဖြင့် မော်တော်ယာဉ်အမျိုးမျိုးတပ်ဆင်ခြင်း၊ ထုတ်လုပ်ခြင်းနှင့်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စအား ၂၀၁၈ ခုနှစ် အောက်တိုဘာလ ၂၂ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၃၃/၂၀၁၈ ကြိမ်မြောက်အစည်းအဝေးမှ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည်-

(က) မော်တော်ယာဉ် model တစ်မျိုးချင်းစီအတွက် ဓါတ်ပုံ ၄ ပုံစီ (ရှေ့၊ နောက်၊ ဝဲ၊ ယာ) model တစ်မျိုးချင်းစီအတွက် Assembling Drawing ၊ Certification အသေးစိတ်များ တင်ပြရန်။
(ခ) စက်ရုံ Layout Plan ၊ တင်သွင်းမည့် Machine List ၊ Safety အတွက် Testing System အပြည့်အစုံ တင်ပြရန်။
(ဂ) Assembling ၊ Manufacturing အတွက် မိခင်ကုမ္ပဏီ၏ Authorization အထောက်အထား တင်ပြရန်။
(ဃ) မိခင်ကုမ္ပဏီ၏ Profile နှင့် Background တင်ပြရန်နှင့် မိခင်ကုမ္ပဏီနှင့် အဆိုပြုကုမ္ပဏီတို့၏ လုပ်ငန်းအတွေ့အကြုံများ တင်ပြရန်။
(င) မော်တော်ယာဉ်ထုတ်လုပ်မှုအတွက် Brand အသုံးပြုခွင့်၊ နည်းပညာအသုံးပြုခွင့်၊ ထုတ်လုပ်ခွင့်များနှင့်စပ်လျဉ်း၍ model တစ်ခုချင်းစီအတွက် လိုင်စင်အသုံးပြုခွင့် အထောက်အထားများ ခွဲခြားတင်ပြရန်။

၂။ အထက်အပိုဒ်-၁ ပါဆုံးဖြတ်ချက်နှင့်အညီ လိုအပ်သည်များ ဆောင်ရွက်ပြီး ပြန်လည်တင်ပြပေးရန် အကြောင်းကြားပါသည်။

အဖွဲ့ခေါင်းဆောင်
(သန့်စင်လွင်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

Myanmar Brilliance Auto Company Limited
မိတ္တူကို
ရုံးလက်ခံ/ မျှောစာတွဲ
PAT Decision

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☎ - ၀၁-၆၅၈၁၂၈
🖷 - ၀၁-၆၅၈၁၃၁

စာအမှတ်၊မရက-၃/ခ-၀၃၀/၂၀၁၈( ၁၉၂ )
ရက်စွဲ ၊ ၂၀၁၈ ခုနှစ် နိုဝင်ဘာလ ၁၂ ရက်

အကြောင်းအရာ။ **ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၏ သဘောထားမှတ်ချက် ပေးပို့ခြင်းကိစ္စ**

ရည်ညွှန်းချက် ။ ရင်းနှီးမြှုပ်နှံမှု ဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၏ ၁-၁၁-၂၀၁၈ ရက်စွဲပါ စာအမှတ် ၀၀၁/ MIC (OSS) / ၀၁(၆၈/၁၈)

၁။ မြန်မာနိုင်ငံသား ဦးခင်မောင်စန်း မှ ၆၀%၊ ဦးမျိုးကျော်မှ ၁၀%၊ ဦးမင်းမင်းမောင်မှ ၁၀%၊ ဦးရန်မျိုးအောင်မှ ၁၀% နှင့် ဦးအောင်ဖုန်းမြင့်မှ ၁၀ % ထည့်ဝင်၍ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Brilliance Auto Company Limited မှ မြေကွက်အမှတ်-၂၄၆-အမ်၊ မြေတိုင်း ရပ်ကွက်အမှတ်- အပိုင်း-၂ ၊ စက်မှုမြို့၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၂.၄၂၀ ဧက (၉,၇၉၃.၄၀၁ စတုရန်းမီတာ) တွင် SKD စနစ်ဖြင့် မော်တော်ယာဉ် အမျိုးမျိုး တပ်ဆင်ခြင်း၊ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်တင်ပြလာခြင်းအပေါ် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့မှ အောက်ပါအတိုင်းဆောင်ရွက်ရန်လိုအပ်မည်ဖြစ်ကြောင်း ရည်ညွှန်းချက်ပါစာဖြင့်သဘောထားမှတ်ချက်ပြန်ကြားထားပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက်လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက် အသားတင်အမြတ်ငွေ၏ ၃ % ကို အသုံးပြုခြင်း အပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့်အညီ ပြုစုဆောင်ရွက်ရန်။

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရ စီမံကိန်းအဆိုပြုသူသည် **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း (Environ-**

mental Impact Assessment-EIA) မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့် တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့်စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်။

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ ထိဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာနှင့် ဆောင်ရွက်မည့် လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်သွားမည့် လုပ်ငန်းတစ်ခုချင်းအလိုက် လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်း ကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာနသို့ တင်ပြ အတည်ပြုချက်ရယူရန်။

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာသတ်မှတ်ခြင်း အစီရင်ခံစာပါ အချက်များ အပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၆၃) ပါ အချက်များနှင့်အညီ **ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်း အစီရင်ခံစာ (EIA)**ကို ဆောင်ရွက်ပြီး သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီး ဌာနသို့ ရေးဆွဲ တင်ပြရန်။

(စ) အထက်ပါ လေ့လာဆန်းစစ်မှုရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်း ဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** (Environmental Management Plan-EMP) ကို ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များ နှင့်အညီရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်း ကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များ နှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့် ပုံစံ များဖြည့်စွက်၍ တစ်ပါတည်းတင်ပြရန်။

၂။ သို့ဖြစ်ပါ၍ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန၊ ရင်းနှီးမြှုပ်နှံမှု ဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့၏ သဘောထားမှတ်ချက်ကို သိရှိလိုက်နာဆောင်ရွက်နိုင်ပါရန်

နှင့် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) အစီရင်ခံစာတို့ကို သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ပေးပို့ရန် အကြောင်းကြားပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

Myanmar Brilliance Auto Company Limited
မြေကွက်အမှတ်-၂၄၆-အမ်၊ မြေတိုင်းရပ်ကွက်အမှတ်- အပိုင်း-၂၊
စက်မှုမြို့၊ လှိုင်သာယာမြို့နယ်၊
ရန်ကုန်တိုင်းဒေသကြီး။

မိတ္တူကို
ရုံးလက်ခံ/ မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

☎ - ၀၁-၆၅၈၁၂၈
🖷 - ၀၁-၆၅၈၁၄၁

စာအမှတ်၊မရက-၃/ခ-၀၃၀/၂၀၁၈(၁၉၃ )
ရက်စွဲ၊ ၂၀၁၈ ခုနှစ် နိုဝင်ဘာလ ၁၄ ရက်

အကြောင်းအရာ။ **စက်မှုဝန်ကြီးဌာန၏သဘောထားမှတ်ချက်ပေးပို့ခြင်းကိစ္စ**

ရည်ညွှန်းချက် ။ စက်မှုဝန်ကြီးဌာန၏ ၂၀၁၈ ခုနှစ် နိုဝင်ဘာလ ၈ ရက်စွဲပါ စာအမှတ်၊ ၁၃-စမ(၂) ၂၀၁၈-၂၀၁၉ (၄၅၂)

၁။ မြန်မာနိုင်ငံသား ဦးခင်မောင်စန်း မှ ၆၀%၊ ဦးမျိုးကျော်မှ ၁၀%၊ ဦးမင်းမင်းမောင်မှ ၁၀%၊ ဦးရန်မျိုးအောင်မှ ၁၀% နှင့် ဦးအောင်ဖုန်းမြင့်မှ ၁၀ % ထည့်ဝင်၍ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Brilliance Auto Company Limited တည်ထောင်ကာ မြေကွက်အမှတ်-၂၄၆-အမ်၊ မြေတိုင်းရပ်ကွက်အမှတ်- အပိုင်း-၂ ၊ စက်မှုမြို့၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၂.၄၂၀ ဧက(၉,၇၉၃.၄၀၁ စတုရန်းမီတာ)တွင် SKD စနစ်ဖြင့် မော်တော်ယာဉ်အမျိုးမျိုး တပ်ဆင်ခြင်း၊ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်တင်ပြလာခြင်းအပေါ် စက်မှုဝန်ကြီးဌာနမှ အောက်ပါအတိုင်း ဆောင်ရွက်ရန်လိုအပ်မည်ဖြစ်ကြောင်း ရည်ညွှန်းပါစာဖြင့် သဘောထားမှတ်ချက် ပြန်ကြားလာပါသည်-

(က) ထုတ်လုပ်မည့် V3, V6 နှင့် V7 Series Brilliance Vehicle ယာဉ်များအတွက် ကုန်အမှတ်တံဆိပ် မူပိုင်ခွင့်အား မူလကုမ္ပဏီ၏ခွင့်ပြုချက် Authorizational Letter ပူးတွဲ တင်ပြရန်။

(ခ) ထုတ်လုပ်ပြီး ယာဉ်များအား စမ်းသပ်နိုင်ရန် Road Test အတွက် ဖော်ပြပေးရန်၊ အဆောက်အဦ ၃ လုံးတွင် Model ၁ မျိုးစီအတွက် ထုတ်လုပ်နိုင်သည် ( သို့မဟုတ်) Model ၃ မျိုးလုံးအတွက် တစ်နေရာတည်းတွင် Assembly ပြုလုပ်နိုင်သည် စသည် တို့အား စိစစ်နိုင်ရန်အတွက် Factory Layout Plan ၊ Installation Plan များအား Actual Layout Plan နှင့် Drawing များ ပြည့်စုံစွာဖော်ပြရန်။

(ဂ) Technology Transfer အတွက် ဆောင်ရွက်မည့်အစီအစဉ်များ ဖော်ပြရန်၊ Process Planning အနေဖြင့် Trim Line ၊ Finish Line နှင့် Test Line တို့ဖြင့် ဆောင်ရွက်မည်ဖြစ်ပြီး ထုတ်လုပ်ပြီးယာဉ်များအား စမ်းသပ်စစ်ဆေးနိုင်ရန် Testing Equipment များ၏ အမျိုးအမည် Specification များ၊ မူရင်းကုမ္ပဏီမှ Inspection Certificate များနှင့် QC Certificate များကို ပူးတွဲ တင်ပြရန်။

# Myanmar Oriental Bank Ltd (Head Office Branch)

166/168,Pansodan St: Kyauktada Ts Yangon
Ph No: 01-378006,246594,246595

## Balance Confirmation

U KHIN MG SAN
NO(18)A.1 THARYAR WATI ST SAYAR SAN QR YANGON MYANMAR

Date: 08/10/2018
Account No: 0002600200029696

Currency : MMK

Balance (including Int) : 300,103,049.22(on 08-10-2018)

Balance (in Word) : Kyats three hundred million and one hundred three thousand and forty-nine and twenty-two pyas only

Please inform any discrepancies immediately and also present your passbook to enter interest.

8/10/18

Manager
Myanmar Oriental Bank

AYA Bank
ဧရာဝတီဘဏ်
Your Trusted Partner

TO 0112-3-30-01-000208-3

KHIN MAUNG SAN 12/LATHANA(N)007499

Dear Sir/Madam,

We hereby certify that the balance standing at the Credit of the account of KHIN MAUNG SAN 12/LATHANA(N)007499 A/C no. 0112-3-30-01-000208-3 with the AYEYARWADY BANK at the close of business on the 08/10/2018 (02:11 PM) was K : 300,000,000.00 ( Three Hundred Million Kyat ).

Yours faithfully,

(Manager)
ACCOUNTS DEPARTMENT

Head Office : Yangon, Myanmar

No.416, Corner of Maharbandoola Road
& Maharbandoola Garden Street, Kyauktada Township.

Block No.(3/B), Quarter No-23(G-1)
Corner of Strand Road & Thit Taw Road,
River View Point Condominium, Ahlone Township

T +951 370500
F +951 370501
E info@ayabank.com.mm

www.ayabank.com
www.facebook.com/ayabank

YOMA BANK

The Responsible Bank.

BANK LMBW YOMA LTD.

Ref: No. Bcl ( 007 )

Date : 08-Oct-2018

**To Whom It May Concern**

Upon request of the Account Holder mentioned here under, we certify that the said account has balance of the stated sum at the close of business on the said date.

This certification is given without responsibility to our bank or its officers.

| Name & Account Number | Date | Balance In Account |
|---|---|---|
| U Min Min Mg- 14/PaThaNa(N)-001570<br><br>**A/C No. 002145115500432** | 08-Oct-2018 | 413,591,022.99 |
| **Words : Four Hundred Thirteen Million Five Hundred Ninety-One Thousand Twenty-Two Kyats And Ninety-Nine Pyas Only** | | |

*Yours faithfully,*

YOMA BANK LIMITED

Dy: Manager Sr. Manager

8/10/18

ရိုးမဘဏ်
ကျင့်ဝတ်မှန်ကန် ရိုးမဘဏ်
Level 8, Office Tower 2, HAGL Myanmar Centre Tower,
No.192, Kabar Aye Pagoda Road, Bahan Township, Yangon, Myanmar.
Call Center : +95 1 9345 255 Tel : +95 1 9345 266
email : info@yomabank.com
www.yomabank.com

# Myanmar Brilliance Auto Company Limited

No.(18/A-1) Thar Yar Waddy Street, Bahan Township, Yangon, Myanmar.

Ph : 09-444456666, 09-695186300, 09-73738585, 09-974040700

Email : myanmarbrillianceauto2018@gmail.com, chrislin13@gmail.com

Viber : +959 - 444456666, Wechat : LIN(ID : wxid-qnapgipdzykc22)


သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်တိုင်းဒေသကြီး။

ရက်စွဲ။ ။ . .၂၀၁၈

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ ခွင့်ပြုမိန့် တင်ပြရန်ကိုယ်စားလှယ်လွှဲအပ်ခြင်း။

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ကျွန်တော်များ မြန်မာအဆင့်မြင့်ကားကုမ္ပဏီလီမိတက် သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ခွင့်ပြုမိန့်တင်ပြရန်အတွက် ကမကထပြုသူဖြစ်သော ဦးခင်မောင်စန်း ကိုယ်စား ကုမ္ပဏီမှ ဝန်ထမ်းတစ်ဦးဖြစ်သူ ဒေါ်ပြည့်ဝင်းသီတာ မှတ်ပုံတင်အမှတ်-(၁၄/ရ က န (နိုင်) ၁၀၅၆၈၅) အား ကိုယ်စားလှယ်လွှဲအပ်ထား သည်ဖြစ်ပါကြောင်း လေးစားစွာဖြင့် တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

KHIN MAUNG SAN

MANAGING DIRECTOR

MYANMAR BRILLIANCE AUTO COMPANY LIMITED

**Myanmar Brilliance Auto Company Limited**

No.(18/A-1) Thar Yar Waddy Street, Bahan Township, Yangon, Myanmar.
Ph : 09-444456666, 09-695186300, 09-73738585, 09-974040700
Email : myanmarbrillianceauto2018@gmail.com, chrislin13@gmail.com
Viber : +959 - 444456666, Wechat : LIN(ID : wxid-qnapgipdzykc22)

ရက်စွဲ။ ။ . .၂၀၁၈

## ရင်းနှီးမြှုပ်နှံမှုပမာဏထပ်မံတိုးမြှင့်၍ ရှေ့ဆက်ဆောင်ရွက်သွားမည့် လုပ်ငန်းအစီအစဉ်များအား ရှင်းလင်းတင်ပြခြင်း။

ကျွန်တော်တို့ မြန်မာအဆင့်မြင့်ကားကုမ္ပဏီလီမိတက် သည် နိုင်ငံတကာအဆင့်မီ SUV လူစီးမော်တော်ယာဉ်များကို (၅) နှစ်အတွင်း SKD System ဖြင့် ထုတ်လုပ်မည်ဖြစ်ပါသည်။ တွက်ခြေကိုက်သော ဈေးနှုန်းများဖြင့် နယ်မြို့မရွေး ဝယ်ယူအသုံးပြုနိုင်ရန် ရည်ရွယ်ပါသည်။ ရေရှည်ကာလတွင် ကားဘတ္တရီ၊ တာယာ၊ မှန်၊ ထိုင်ခုံ စသည်ဖြင့် လိုအပ်သော အခြေခံပစ္စည်းများကို ပြည်တွင်းတွင် ဝယ်ယူ၍ CKD စနစ်ဖြင့် တိုးမြှင့်ထုတ်လုပ်နိုင်သည့် အခြေအနေသို့ရောက်ရှိနိုင်အောင် ကြိုးစားဆောင်ရွက်ရန် ရည်ရွယ်ထားပါသည်။ ထို့အပြင် အဆင့်မြင့် နည်းပညာများကို လေ့လာဆည်းပူးရန် ဝန်ထမ်းများကိုလည်း ပြည်းတွင်း၊ ပြည်ပသင်တန်းများပို့ချပေးရန်ရည်ရွယ်ပါသည်။အာဆီယံဒေသအတွင်းအဆင့်မီနည်းပညာများရရှိလာပါက မိမိတို့ထုတ်ကုန်ကိုပြည်ပပို့ကုန်အဖြစ်ထိ ရောက်ရှိအောင်ကြိုးစားဆောင်ရွက်သွာမည် ရေရှည်အစီအစဉ်များရရှိပါကြောင်း ရှင်းလင်းတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

KHIN MAUNG SAN
MANAGING DIRECTOR
MYANMAR BRILLIANCE AUTO COMPANY LIMITED

# Myanmar Brilliance Auto Company Limited

No.(18/A-1) Thar Yar Waddy Street, Bahan Township, Yangon, Myanmar.

Ph : 09-444456666, 09-695186300, 09-73738585, 09-974040700

Email : myanmarbrillianceauto2018@gmail.com, chrislin13@gmail.com

Viber : +959 - 444456666, Wechat : LIN(ID : wxid-qnapgipdzykc22)


ရက်စွဲ။ ။ . . ၂၀၁၈

## <u>ရေဆိုးသန့်စင်ခြင်းအတွက်ရှင်းလင်းတင်ပြခြင်း</u>

ကျွန်တော်တို့ မြန်မာအဆင့်မြင့်ကားကုမ္ပဏီလီမိတက်၏ အဆိုပြုလုပ်ငန်းသည် ဓာတုပစ္စည်းများသုံးစွဲခြင်းမရှိပါ။ စက်မှုလုပ်ငန်းများအတွက် ရေသုံးစွဲခြင်း၊ ဝန်ထမ်းများရေသုံးစွဲခြင်း၊ သန့်စင်ခန်းများရေသုံးစွဲခြင်းတို့အတွက် သန့်စင်သည့် ရေလိုအပ်မည် ဖြစ်ပါသည်။ သို့ဖြစ်ပါ၍ သုံးစွဲပြီးသည့်ရေကို စည်ပင်သာယာမှ သတ်မှတ်ထားသည့် ရေမြောင်းများဆီသို့ လုံခြုံသည့် ပိုက်များသွယ်တန်း၍ စွန့်ပစ်သွားမည်ဖြစ်ပါကြောင်း ရှင်းလင်းတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

KHIN MAUNG SAN

MANAGING DIRECTOR

MYANMAR BRILLIANCE AUTO COMPANY LIMITED

# Myanmar Brilliance Auto Company Limited

No.(18/A-1) Thar Yar Waddy Street, Bahan Township, Yangon, Myanmar.

Ph : 09-444456666, 09-695186300, 09-73738585, 09-974040700

Email : myanmarbrillianceauto2018@gmail.com, chrislin13@gmail.com

Viber : +959 - 444456666, Wechat : LIN(ID : wxid-qnapgipdzykc22)


ရက်စွဲ။ ။ . . ၂၀၁၈

## မီးဘေးကာကွယ်မှုအစီအမံများ

ကျွန်တော်တို့ မြန်မာအဆင့်မြင့်ကားကုမ္ပဏီလီမိတက်၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းနှင့်ပတ်သက်၍ မီးဘေးကာကွယ်မှု အစီအမံများကို အောက်ပါအတိုင်း ဆောင်ရွက်ထားရှိမည်ဖြစ်ပါသည်။

(၁) စက်ရုံ၏ဘေးပတ်လည်တွင် ရေပိုက်များထားရှိခြင်း။

(၂) မီးသတ်ဆေးဗူးများကို စက်ရုံအတွင်းချိတ်ဆွဲထားရှိခြင်း၊ သဲအိတ်များထားရှိခြင်း။

(၃) ရေကန်ငယ်များထားရှိခြင်း။

(၄) အမိုက်သရိုက်လောင်စာများကို ပုံမှန်ရှင်းလင်းရန်စီစဉ်ထားရှိခြင်း။

(၅) လောင်စာဆီပေပါများအနီးတွင် ရေကန်ငယ်များတည်ဆောက်ထားရှိခြင်း။

(၆) အရေးပေါ်ထွက်ပေါက်များစနစ်တကျထားရှိခြင်းနှင့်လျှပ်စစ်အန္တရာယ်များမဖြစ်ပေါ်စေရန်စီစဉ် ထားရှိခြင်း။

(၇) လျှပ်စစ်နှင့်ပတ်သက်သည့် အန္တရာယ်များမဖြစ်ပေါ်အောင်ဆောင်ရွက်ထားရှိခြင်း။

လေးစားစွာဖြင့်

KHIN MAUNG SAN
MANAGING DIRECTOR
MYANMAR BRILLIANCE AUTO COMPANY LIMITED

# Myanmar Brilliance Auto Company Limited

M.B.A — Myanmar Brilliance Auto Co.,Ltd

No.(18/A-1) Thar Yar Waddy Street, Bahan Township, Yangon, Myanmar.

Ph : 09-444456666, 09-695186300, 09-73738585, 09-974040700

Email : myanmarbrillianceauto2018@gmail.com, chrislin13@gmail.com

Viber : +959 - 444456666, Wechat : LIN(ID : wxid-qnapgipdzykc22)


ရက်စွဲ။ ။ . . ၂၀၁၈

## လျှပ်စစ်ဓါတ်အားသုံးစွဲမှုအစီအစဉ်တင်ပြခြင်း

ကျွန်တော်တို့ မြန်မာအဆင့်မြင့်ကားကုမ္ပဏီလီမိတက်၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းနှင့်ပတ်သက်၍ လျှပ်စစ်ဓါတ်အားလိုင်းကို စက်မှုဇုံရှိ မဟာဓါတ်အားလိုင်းမှ ရယူသုံးစွဲမည်ဖြစ်ပါသည်။ ထို့အပြင် မိမိကုမ္ပဏီပိုင် မီးစက်ဖြင့်လည်း သုံးစွဲမည်ဖြစ်ပါသည်။

လေးစားစွာဖြင့်

KHIN MAUNG SAN

MANAGING DIRECTOR

MYANMAR BRILLIANCE AUTO COMPANY LIMITED

# Myanmar Brilliance Auto Company Limited

No.(18/A-1) Thar Yar Waddy Street, Bahan Township, Yangon, Myanmar.

Ph : 09-444456666, 09-695186300, 09-73738585, 09-974040700

Email : myanmarbrillianceauto2018@gmail.com, chrislin13@gmail.com

Viber : +959 - 444456666, Wechat : LIN(ID : wxid-qnapgipdzykc22)


ရက်စွဲ။ ။ . .၂၀၁၈

## <u>ပတ်ဝန်းကျင်ထိန်းသိမ်းထားရှိမှုအစီအစဉ်တင်ပြခြင်း</u>

ကျွန်တော်တို့ မြန်မာအဆင့်မြင့်ကားကုမ္ပဏီလီမိတက်သည်ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းနှင့်ပတ်သက်၍ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှု အနည်းဆုံးဖြစ်စေရန် ရင်းနှီးမြှုပ်နှံမှုခွင့်ပြုချက်ရရှိပြီးနောက် ပတ်ဝန်းကျင်ဆိုင်ရာကျွမ်းကျင်မှုရှိသည့် အသိအမှတ်ပြုအဖွဲ့အစည်းနှင့်ဆက်သွယ်၍ ပတ်ဝန်းကျင်ဆိုင်ရာစီမံခန့်ခွဲမှုအစီအစဉ်များကို ဆောင်ရွက်သွားမည် ဖြစ်ကြောင်း ရှင်းလင်းတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

KHIN MAUNG SAN
MANAGING DIRECTOR
MYANMAR BRILLIANCE AUTO COMPANY LIMITED

Myanmar Brilliance Auto Company Limited
No.(18/A-1) Thar Yar Waddy Street, Bahan Township, Yangon, Myanmar.
Ph : 09-444456666, 09-695186300, 09-73738585, 09-974040700
Email : myanmarbrillianceauto2018@gmail.com, chrislin13@gmail.com
Viber : +959 - 444456666, Wechat : LIN(ID : wxid-qnapgipdzykc22)

ရက်စွဲ။ ။ . . ၂၀၁၈

## လုပ်သားများ၏လူမှုဖူလုံရေး၊ သက်သာချောင်ချိမှုဆောင်ရွက်မှုအစီအမံများ။

(၁) ဝန်ထမ်းများ၏ ကျန်းမာရေးခံစားခွင့်များသတ်မှတ်ပေးခြင်း။

(၂) ဝန်ထမ်းများ၏ ပညာရည်မြှင့်တင်မှုအတွက် လုပ်ငန်းခွင်ဆိုင်ရာသင်တန်းများ အခါအားလျော်စွာစီစဉ်ပေးခြင်း။

(၃) အားကစားပွဲများကျင်းပပေးခြင်း။

(၄) လုပ်ငန်းခွင်ဆိုင်ရာစိတ်ဖိစီးမှုများလျှော့ပါးစေရန်နှင့်နယ်မြေဗဟုသုတများဖွံ့ဖြိုးစေရန် လေ့လာရေးခရီးစဉ်များစီစဉ်ဆောင်ရွက်ပေးခြင်း၊ Annual Staff Party ပွဲများကျင်းပပေးရန်အတွက် စီစဉ်ထားခြင်း။

(၅) ဆုကြေးအဖြစ် (၁)နှစ်လျှင် (၁)ကြိမ် အလုပ်ဆင်းရက်မှန်ဆု၊ အလုပ်ကြိုးစားမှုဆု၊ လုပ်သက်အကြာဆုံးဆုများပေးရန် သတ်မှတ်ပေးခြင်း။

(၆) ဝန်ထမ်းများ၏နောင်ရေးအတွက်ကုမ္ပဏီမှရန်ပုံငွေတစ်ရပ်ဖန်တီးထားရှိပြီး ရေရှည်လုပ်ကိုင်သောဝန်ထမ်းများအတွက် ခံစားခွင့်များသတ်မှတ်ပေးရန်အစီအစဉ်ရှိခြင်း။ (ဥပမာ- မိသားစုအိမ်ရာ၊ မိသားစုကျန်းမာရေး)

လေးစားစွာဖြင့်

KHIN MAUNG SAN
MANAGING DIRECTOR
MYANMAR BRILLIANCE AUTO COMPANY LIMITED

**Myanmar Brilliance Auto Company Limited**

No.(18/A-1) Thar Yar Waddy Street, Bahan Township, Yangon, Myanmar.

Ph : 09-444456666, 09-695186300, 09-73738585, 09-974040700

Email : myanmarbrillianceauto2018@gmail.com, chrislin13@gmail.com

Viber : +959 - 444456666, Wechat : LIN(ID : wxid-qnapgipdzykc22)

ရက်စွဲ။ ။ . .၂၀၁၈

## ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအကျဉ်းချုပ်ရှင်းလင်းတင်ပြခြင်း။

ကျွန်တော်တို့ မြန်မာအဆင့်မြင့်ကားကုမ္ပဏီလီမိတက်သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုံ ရပ်ကွက်၊ မြေတိုင်းရပ်ကွက်အမှတ်- စက်မှုဇုန်(၂)၊ မြေကွက်အမှတ်-(၂၄၆/M)၊ ဦးရွှေမြူးလမ်းနှင့်ဦးအောင်သူလမ်းထောင့် မြေဧရိယာ(၂.၄၂၀)ဧကရှိသော မြေနေရာတွင် မြေနှင့်အဆောက်အဦးကို ငှားရမ်း၍ လူစီးမော်တော်ယာဉ်များထုတ်လုပ်မှု လုပ်ငန်းများကို ဆောင်ရွက်ရန်ဖြစ်ပါသည်။ အဆိုပါမော်တော်ယာဉ်များကို ထုတ်လုပ်ရာတွင် တရုတ်ပြည်သူ့သမ္မတနိုင်ငံမှ ကုန်ကြမ်းပစ္စည်းများတင်သွင်း၍ SKD (Semi Knock Down System) စနစ်ဖြင့် လူစီးမော်တော်ယာဉ်များ ထုတ်လုပ်မည်ဖြစ်ပါသည်။ အဓိကရောင်းချမည့်ဈေးကွက်မှာ ပြည်တွင်းဈေးကွက်ဖြစ်ပါသည်။ လိုအပ်သော ရင်းနှီးပစ္စည်းများ ကိုလည်း ပြည်ပမှတင်သွင်းမည်ဖြစ်ပါသည်။ နည်းပညာဆိုင်ရာ လွှဲပြောင်းမှုများကို ရေရှည်တွင် ရရှိနိုင်ရန်အတွက် လည်းကောင်း၊ ကနဦးထုတ်လုပ်မှုလုပ်ငန်းများ အဆင်ပြေချောမွေ့စေရန်အတွက်လည်းကောင်း ရည်ရွယ်၍ ကုန်ကြမ်းပစ္စည်း ရောင်းချပေးသော နိုင်ငံခြားကုမ္ပဏီနှင့် ညှိနှိုင်းခြင်းဖြင့် နိုင်ငံခြားသားပညာရှင်များကို အချိန်ပိုင်းခန့်ထား၍ တစ်နှစ်မှ နှစ် နှစ် ကာလထိ အဆိုပါနိုင်ငံခြားကုမ္ပဏီ၏ လစာဖြင့် ဆောင်ရွက်သွားစေမည်ဖြစ်ပါသည်။ ရေရှည်ကာလတွင် ပြောင်းလဲတိုးတက် လာသော အခြေအနေအပေါ်မူတည်၍ နိုင်ငံခြားဈေးကွက်များကို ရှာဖွေပြီးတိုးချဲ့လုပ်ကိုင်သွားရန်ထိ ရည်ရွယ်ပါသည်။ လုပ်ငန်းမှရရှိလာသော အကျိုးအမြတ်များ၏ (၃) ရာခိုင်နှုန်းခန့်ကို လူမှုအကျိုးပြုလုပ်ငန်းများနှင့် ဝန်ထမ်းများ၏ အကျိုးစီးပွား အတွက်သုံးစွဲရန်ရည်ရွယ်ထားပါသည်။စက်ရုံတည်ဆောက်ခြင်းကြောင့် ဖြစ်ပေါ်လာမ ည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများကို သတ်မှတ်ထားသော စည်းမျဉ်းစည်းကမ်းများနှင့်အညီ ကျွမ်းကျင်သည့်အဖွဲ့အစည်းများသို့ အပ်နှံ၍ ဆောင်ရွက်သွားမည်ဖြစ် ပါသည်။

လေးစားစွာဖြင့်

KHIN MAUNG SAN

MANAGING DIRECTOR

MYANMAR BRILLIANCE AUTO COMPANY LIMITED

# MYANMAR BRILLIANCE AUTO COMPANY LIMITED

# CONSTITUTION

***********************************

# ဖွဲ့စည်းပုံအခြေခံစည်းမျဉ်း

မြန်မာနိုင်ငံကုမ္ပဏီများဥပဒေ

ဖွဲ့စည်းပုံအခြေခံစည်းမျဉ်း (နမူနာပုံစံ)

---

[ကုမ္ပဏီအမည်] ၏

**ဖွဲ့စည်းပုံအခြေခံစည်းမျဉ်း**

........./........./၂၀.........တွင်အတည်ပြုသည်။

---

**မှတ်ချက်၁။ ဤဖွဲ့စည်းပုံ အခြေခံစည်းမျဉ်းပုံစံ သည် အစုရှယ်ယာဖြင့် တာဝန် ကန့်သတ် ထားသည့် အများနှင့်မသက်ဆိုင်သော ကုမ္ပဏီ၏ ဖွဲ့စည်းပုံအခြေခံ စည်းမျဉ်း နမူနာပုံစံတစ်ခုဖြစ်ပြီး ကုမ္ပဏီများ၏စီမံခန့်ခွဲရေးနှင့် စီမံအုပ်ချုပ်မှု ကိစ္စ အဝဝတွင် ပြုပြင်ပြောင်းလဲနိုင်မှုကို ပြုလုပ်နိုင်သမျှ ပြုလုပ်နိုင်ရန် အလိုက်လျော ညီထွေဆုံး ပြင်ဆင်ဆောင်ရွက်ထားပါသည်။ကုမ္ပဏီတစ်ခုက ဆန္ဒရှိပါက ခံစားနိုင်ရန် ကုမ္ပဏီများ၏ဥပဒေအရ အခွင့်အာဏာနှင့် ပြုလွယ်ပြောင်းလွယ် လိုက်လျော ညီထွေရှိစေမှုကို ကန့်သတ်နိုင်ပါသည်။ ဖွဲ့စည်းပုံ အခြေခံစည်းမျဉ်း နမူနာပုံစံ ကို အတည်မပြုမီ ကုမ္ပဏီနှင့်ကုမ္ပဏီတွင် ပါဝင်သူတို့၏ ရည်မှန်းချက် တစ်ခုလုံး ပေါက်မြောက်အောင် ဤဖွဲ့စည်းပုံ အခြေခံစည်းမျဉ်း နမူနာပုံစံက အကောင်းဆုံး ဆောင်ရွက်နိုင်ခြင်း ရှိ၊ မရှိကို ကြိုတင်၍ ကောင်းစွာဆင်ခြင်သုံးသပ်သင့်ပါသည်။**

မှတ်ချက်၂။ ကုမ္ပဏီသည်ခံဝန်ချက်အားဖြင့် တာဝန်ကန့်သတ်ထားသည့် ကုမ္ပဏီ တစ်ခုဖြစ်ပါက ဤဖွဲ့စည်းပုံအခြေခံစည်းမျဉ်းပုံစံတွင် ခံဝန်ချက်၏ တန်ဖိုးပမာဏ ကိုဖော်ပြ၍ ထိုခံဝန်ချက်၏ တန်ဖိုးပမာဏဖြင့်ကုမ္ပဏီတွင်ပါဝင်သူများ၏တာဝန်များကိုကန့်သတ်ထားကြောင်း၊ကုမ္ပဏီတွင်ပါဝင်သူတစ်ဦးချင်းစီသည်၎င်းတို့အနေဖြင့်ကုမ္ပဏီတွင်ပါဝင်သူအဖြစ်တာဝန်ရှိနေဆဲအချိန်တွင်ကုမ္ပဏီအားဖျက်သိမ်းသည့်ကိစ္စရပ်တွင်ကုမ္ပဏီ၏ရပိုင်ခွင့်များမှပေးချေဆောင်ရွက်ရန်တာဝန်ယူကြောင်းဖော်ပြရမည်ဖြစ်ပါသည်။ကုမ္ပဏီသည် အစုရှယ်ယာမတည်ငွေရင်းမပါဝင်သောခံဝန်ချက်အားဖြင့်တာဝန်ကန့်သတ်ထားသည့်ကုမ္ပဏီတစ်ခုဖြစ်ပါကဖွဲ့စည်းပုံအခြေခံစည်းမျဉ်းတွင်အစုရှယ်ယာ၊အစုရှယ်ယာမတည်ငွေရင်းတို့နှင့်သက်ဆိုင်သည့်စာပိုဒ်များကိုပယ်ဖျက်ရန်ဖြစ်ပါသည်။

မှတ်ချက်၃။ တည်ထောင်ရန်အဆိုပြုသောကုမ္ပဏီသည် တာဝန်ကန့်သတ်မရှိသည့် ကုမ္ပဏီဖြစ်ပါက အခြားဖွဲ့စည်းပုံအခြေခံစည်းမျဉ်းကို သုံးစွဲအတည်ပြုသင့်ပါသည်။

မှတ်ချက် ၄။ ကုမ္ပဏီသည်၎င်း၏ဖွဲ့စည်းပုံအခြေခံစည်းမျဉ်းကို သုံးစွဲနိုင်ပြီး ဤဖွဲ့စည်းပုံအခြေခံစည်းမျဉ်းပုံစံကို အသုံးပြုရန် မလိုအပ်ပါ။

မာတိကာ

၂၅။ သိမ်းဆည်းထားရမည့်မှတ်တမ်းများနှင့်မှတ်ပုံတင်စာအုပ်များ

၂၆။ မှတ်တမ်းမှတ်ရာများကိုကြည့်ရှုစစ်ဆေးခြင်း

၂၇။ အကြောင်းကြားစာပေးခြင်း

နောက်ဆက်တွဲ

## အခန်း (၁)

## အဓိပ္ပာယ်ဖော်ပြချက်များ

၁။

ဤဖွဲ့စည်းပုံအခြေခံစည်းမျဉ်းတွင်အခြားနည်းလိုအပ်ခြင်းမရှိက၊အပိုဒ် ၂ကိုလိုက်နာလျက်အောက်ပါ အတိုင်းအဓိပ္ပာယ်ဖွင့်ဆိုရမည်-

(က) "ကုမ္ပဏီကိုယ်စားပြုပုဂ္ဂိုလ်" ဆိုသည်မှာ ကော်ပိုရေးရှင်း အဖွဲ့အစည်းတစ်ခု၏ ကိုယ်စားလှယ် အဖြစ်ဥပဒေအရ ခန့်အပ်သောလူပုဂ္ဂိုလ်တစ်ဦးကိုဆိုလိုသည်။

(ခ) "ဘုတ်အဖွဲ့" ဆိုသည်မှာဒါရိုက်တာအဖွဲ့အဖြစ် အတူတကွ လုပ်ကိုင်ဆောင်ရွက်ကြသော ကုမ္ပဏီ၏ ဒါရိုက်တာများကို ဆိုလိုသည်။ ( ဒါရိုက်တာတစ်ဦးတည်းရှိသော ကုမ္ပဏီတွင် ဘုတ်အဖွဲ့ဆိုသည်မှာ ထိုဒါရိုက်တာတစ်ဦးကိုဆိုသည်)

(ဂ) "ဒါရိုက်တာ" ဆိုသည်မှာ ဤဖွဲ့စည်းပုံအခြေခံစည်းမျဉ်းအရနှင့် ဥပဒေအရကုမ္ပဏီ၏ ဒါရိုက်တာအဖြစ်ခန့်အပ်သောလူပုဂ္ဂိုလ်တစ်ဦးကိုဆိုလိုသည်။

(ဃ) "ခွဲဝေပေးခြင်း" ဆိုသည်တွင်မတည်ငွေပြန်လည်ပေးအပ်ခြင်းငွေ၊ ဆုကြေးငွေအဖြစ် ထုတ်ပေးသည့်အစုရှယ်ယာ၊ပြန်လည်ဝယ်ယူသည့် အစုရှယ်ယာအတွက် ပေးရန်ငွေ နှင့် အခြားဝင်ငွေများ သို့မဟုတ် မတည်ငွေခွဲဝေခြင်းတို့ပါဝင်သည်။

(င) "အထွေထွေအစည်းအဝေး" ဆိုသည်မှာကုမ္ပဏီ၏အထွေထွေအစည်းအဝေးကိုဆိုလိုသည်။

(စ) "ဥပဒေ" ဆိုသည်မှာ အခါအားလျော်စွာပြင်ဆင်ထားသည့် အတိုင်းအကျိုးသက်ရောက်မှု ရှိသော မြန်မာနိုင်ငံကုမ္ပဏီများဥပဒေ(၂၀၁၇) (ပြည်ထောင်စုလွှတ်တော် ဥပဒေအမှတ် ၂၉/၂၀၁၇) ကိုဆိုလိုသည်။

(ဆ) "ရပိုင်ခွင့်ရှိသောငွေ" ဆိုသည်မှာအပိုဒ် ၂၈ (က) တွင်ဖော်ပြထားသည့်အတိုင်း အဓိပ္ပာယ် သက်ရောက်သည်။

(ဇ) "ကုမ္ပဏီတွင်ပါဝင်သူ" ဆိုသည်မှာ မှတ်ပုံတင်စာအုပ်တွင် အစုရှယ်ယာတစ်ခု သို့မဟုတ် အစုရှယ်ယာအများ၏ပိုင်ရှင်အဖြစ်ပါဝင်သူတစ်ဦးကိုဆိုလိုသည်။

(ဈ) "ရုံး" ဆိုသည်မှာကုမ္ပဏီ၏မှတ်ပုံတင်ရုံးခန်းကိုဆိုလိုသည်။

(ည) "သာမန်ဆုံးဖြတ်ချက်" ဆိုသည်မှာ သာမန်ဆုံးဖြတ်ချက်တစ်ရပ်အဖြစ် နည်းလမ်းတကျ ချမှတ်ဆောင်ရွက်ရန် ရည်ရွယ်ခဲ့ကြောင်း အထွေထွေ အစည်းအဝေး အတွက် အကြောင်းကြားစာတွင် ဖော်ပြခဲ့ပြီး၊ကိုယ်တိုင်တက်ရောက်၍ဖြစ်စေ၊ ခွင့်ပြုခန့်ထားသည့် ကိုယ်စားလှယ် တက်ရောက်၍ဖြစ်စေ မဲပေးခွင့်ရှိသော ကုမ္ပဏီတွင် ပါဝင်သူများ၏ မဲအများစုဖြင့် ချမှတ်ခဲ့သည့်ဆုံးဖြတ်ချက်ကို ဆိုလိုသည်။

(ဋ) "ကြွေးတင်ကျန်ရှိနေသောငွေကြေး"ဆိုသည်မှာအပိုဒ်-၂၉(ခ)တွင်ဖော်ပြထားသည့်အတိုင်း အဓိပ္ပာယ်သက်ရောက်သည်။

(ဌ) "မဲခွဲဆုံးဖြတ်ခြင်း" ဆိုသည်မှာ ကုမ္ပဏီတွင်ပါဝင်သူ တစ်ဦးစီက ၎င်းတို့ပိုင်ဆိုင်သော အစုရှယ်ယာအရေအတွက်အရ ဆန္ဒမဲပေးခြင်းကိုဆိုလိုသည်။

(ဍ) "မှတ်ပုံတင်စာရင်း" ဆိုသည်မှာဥပဒေအရ ပြုလုပ်ထိန်းသိမ်းရန်လိုအပ်သော ကုမ္ပဏီတွင် ပါဝင်သူများ၏ မှတ်ပုံတင်စာရင်းကိုဆိုလိုသည်။

(ဎ) "ဆုံးဖြတ်ချက်" ဆိုသည်မှာမည်သည့် ဆုံးဖြတ်ချက်ကိုမဆိုဆိုလိုပြီး ဒါရိုက်တာများ၏ ဆုံးဖြတ်ချက်၊သာမန်ဆုံးဖြတ်ချက် နှင့် အထူးဆုံးဖြတ်ချက်တို့လည်း အကျုံးဝင်သည်။

(ဏ) "ရုံးတံဆိပ်" ဆိုသည်မှာကုမ္ပဏီ၏ရုံးတံဆိပ်ကိုဆိုလိုသည်။

(တ) "အတွင်းရေးမှူး"ဆိုသည်မှာ ဤဖွဲ့စည်းပုံ အခြေခံစည်းမျဉ်း နှင့် ဥပဒေတို့အရ အတွင်းရေးမှူးအဖြစ် ခန့်အပ်သောမည်သည့် လူပုဂ္ဂိုလ်ကိုမဆို ဆိုလိုသည်။

(ထ) "အစုရှယ်ယာ" ဆိုသည်မှာကုမ္ပဏီ၏ အစုရှယ်ယာမတည်ငွေရင်းရှိ အစုရှယ်ယာကို ဆိုလိုသည်။

(ဒ) "လက်ပြမဲပေးခြင်း" ဆိုသည်မှာ ကုမ္ပဏီတွင်ပါဝင်သူတစ်ဦးစီက လက်ပြ၍ ဆန္ဒမဲပေးခြင်း ကိုဆိုလိုသည်။

(ဓ) "အထူးဆုံးဖြတ်ချက်" ဆိုသည်မှာအထူးဆုံးဖြတ်ချက်တစ်ရပ်အဖြစ် နည်းလမ်းတကျ ချမှတ်ဆောင်ရွက်ရန် ရည်ရွယ်ခဲ့ကြောင်း အထွေထွေအစည်းအဝေးအတွက် အကြောင်းကြား စာတွင် ဖော်ပြခဲ့ပြီး၊ကိုယ်တိုင်တက်ရောက်၍ဖြစ်စေ၊ ခွင့်ပြုခန့်ထားသည့် ကိုယ်စားလှယ် တက်ရောက်၍ဖြစ်စေ မဲပေးခွင့်ရှိသော ကုမ္ပဏီတွင်ပါဝင်သူများ၏ လေးပုံသုံးပုံထက် မနည်းသော မဲအများစုဖြင့် ချမှတ်ခဲ့သည့် ဆုံးဖြတ်ချက်ကို ဆိုလိုသည်။

**ကုမ္ပဏီများဥပဒေအဓိပ္ပာယ်ဖွင့်ဆိုချက်များ**

၂။ ဤဖွဲ့စည်းပုံအခြေခံစည်းမျဉ်းတွင်ပါရှိသော စကားရပ်များသည် အခြားနည်းဖြင့် ဖော်ပြထားခြင်းမှ တစ်ပါး ဥပဒေတွင် အနက်အဓိပ္ပာယ် ဖွင့်ဆိုထားပါက ထိုသို့အဓိပ္ပာယ်ဖွင့်ဆိုထားသည့်အတိုင်း အဓိပ္ပာယ် သက်ရောက်စေရမည်။

ဥပဒေနှင့်ညီညွတ်ရန်လိုအပ်သောဖွဲ့စည်းပုံအခြေခံစည်းမျဉ်း

၃။ ဤဖွဲ့စည်းပုံအခြေခံစည်းမျဉ်းသည် ဥပဒေနှင့်ညီညွတ်ရမည်။ ဤဖွဲ့စည်းပုံအခြေခံစည်းမျဉ်းပါ စာပိုဒ်တစ်ရပ်ရပ်သည်ဥပဒေနှင့်ကွဲလွဲခြင်း သို့မဟုတ် ညီညွတ်မှုမရှိခြင်းတို့ပေါ်ပေါက်ပါက ယင်းသို့ကွဲလွဲခြင်း သို့မဟုတ် ညီညွတ်မှုမရှိခြင်းကို ဥပဒေအရခွင့်ပြုထားသည့် အတိုင်းအတာအထိမှလွဲ၍ ယင်းကွဲလွဲခြင်း၊ မညီညွတ်ခြင်းနှင့်စပ်လျဉ်း၍ဥပဒေကလွှမ်းမိုးသည်။

## အခန်း (၂)

## နိဒါန်းအချက်အလက်များ

၄။ ဤဖွဲ့စည်းပုံအခြေခံစည်းမျဉ်းသည်ကုမ္ပဏီ၏ဖွဲ့စည်းပုံအခြေခံစည်းမျဉ်းဖြစ်သည်။

၅။ ကုမ္ပဏီသည် အစုရှယ်ယာအားဖြင့်တာဝန်ကန့်သတ်ထားသည့် ကုမ္ပဏီဖြစ်ပြီး ကုမ္ပဏီတွင်ပါဝင်သူများသည် ဥပဒေအရ ၎င်းတို့ပိုင်ဆိုင်သော အစုရှယ်ယာတွင် မပေးချေရသေးသော ပမာဏ (ရှိလျှင်) အပေါ်တွင် တာဝန်ကန့်သတ်သည်။

၆။ ဥပဒေနှင့်အညီ ကုမ္ပဏီတွင်ပါဝင်သူများ၏ ဆုံးဖြတ်ချက်ကိုလိုက်နာလျက် ကုမ္ပဏီတွင် အောက်ဖော်ပြပါ အစုရှယ်ယာအမျိုးအစားများရှိသည်-

(က) သာမန်အစုရှယ်ယာများ (ဥပဒေတွင်သတ်မှတ်သည့်အတိုင်းအခွင့်အရေးရှိစေရမည်)။

(ခ) နောက်ဆက်တွဲဇယားတွင် ဖော်ပြပါရှိသော အခြားသောအစုရှယ်ယာ အမျိုးအစားများ ရှိလျှင်(နောက်ဆက်တွဲဇယားတွင်သတ်မှတ်သည့်အတိုင်းအခွင့်အရေးရှိစေရမည် )။

(ဂ) ဥပဒေအရထုတ်ဝေထားသောအခြားအစုရှယ်ယာအမျိုးအစား။

၇။ မည်သည့်ကုမ္ပဏီတွင်ပါဝင်သူမှအစုရှယ်ယာတစ်ခုအောက်နည်း၍အစုရှယ်ယာပိုင်ဆိုင်ခွင့်မရှိပါ။

၈။ ကုမ္ပဏီရုံးခန်းသည်ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်းတည်ရှိရမည်။

## အခန်း (၃)

## အစုရှယ်ယာမတည်ငွေရင်း

**အစုရှယ်ယာများထုတ်ဝေခြင်းနှင့်ခွဲဝေခြင်း**

၉။ ဥပဒေကိုလိုက်နာလျက်ကုမ္ပဏီသည်-

(က) ဒါရိုက်တာများ ဆုံးဖြတ်သည့် စည်းကမ်းချက် နှင့် ဆုံးဖြတ်သည့် အချိန်ကာလတွင် ပုဂ္ဂိုလ်တစ်ဦးဦးထံ အစုရှယ်ယာများကိုထုတ်ဝေခြင်း၊ခွဲဝေခြင်းပြုနိုင်သည်။

(ခ) ဒါရိုက်တာများဆုံးဖြတ်သည့် စည်းကမ်းချက်နှင့် ဆုံးဖြတ်သည့် မည်သည့်အချိန်ကာလ အတွင်းမဆို ပုဂ္ဂိုလ်တစ်ဦးဦးထံ အစုရှယ်ယာတစ်ရပ်ရပ်ထုတ်ဝေခြင်း နှင့်စပ်လျဉ်း၍ အော်ပ်ရှင်းပေးနိုင်သည်။

(ဂ) အပိုဒ်-၉ (က) အရကန့်သတ်ခြင်းမရှိဘဲ ဒါရိုက်တာများဆုံးဖြတ်သည့် အတိုင်းကုမ္ပဏီသည် ဦးစားပေးအစုရှယ်ယာ၊ ဆိုင်းငံ့ထားသောအစုရှယ်ယာ သို့မဟုတ် အထူးအခွင့်အရေးများ ပါရှိသော အစုရှယ်ယာ သို့မဟုတ် အခြားကန့်သတ်ချက် တစ်ရပ်ရပ်ပါရှိသော အစုရှယ်ယာများ(အမြတ်ဝေစုများနှင့်အခြားခွဲဝေခြင်းများ၊မဲပေးခြင်းများနှင့် သက်ဆိုင်ခြင်း ရှိသည်ဖြစ်စေ၊ မရှိသည်ဖြစ်စေ) ကိုထုတ်ဝေခြင်း နှင့် ခွဲဝေခြင်းများ ပြုလုပ်နိုင်သည်။

ကုမ္ပဏီသည်ဦးစားပေးအစုရှယ်ယာများထုတ်ဝေနိုင်ခြင်း

၁၀။ ဥပဒေကိုလိုက်နာ၍ အပိုဒ်-၉အရ ကန့်သတ်ခြင်းမရှိဘဲ ဒါရိုက်တာများ ဆုံးဖြတ်သည့် စည်းကမ်းချက်များ နှင့်အညီ ကုမ္ပဏီသည် ဦးစားပေးအစုရှယ်ယာများကို ထုတ်ဝေနိုင်သည်။ ဦးစားပေးအစုရှယ်ယာများကို ကုမ္ပဏီကဖြစ်စေ၊ အစုရှယ်ယာပိုင်ရှင်ကဖြစ်စေ၊ နှစ်ဦးလုံးက ဖြစ်စေ မိမိတို့ရွေးချယ်သည့်အတိုင်း ပြန်လည်ရွေးနုတ်ခြင်း သို့မဟုတ် သာမန်အစုရှယ်ယာ အဖြစ်သို့ ပြောင်းလဲခြင်း ပြုနိုင်သည်။

အစုရှယ်ယာများအတွက်လျှောက်ထားခြင်း

၁၁။ ပုဂ္ဂိုလ်တစ်ဦး ကကိုယ်တိုင်အတွက်ဖြစ်စေ၊ ကိုယ်စားဖြစ်စေအစုရှယ်ယာများ လျှောက်ထားလာသည်ကို ကုမ္ပဏီကလက်ခံရရှိပါကကုမ္ပဏီသည် ယင်းသို့လျှောက်ထားချက်အရ ပုဂ္ဂိုလ်တစ်ဦးကို အစုရှယ်ယာ ခွဲဝေပေးရာတွင် ထိုလျှောက်ထားချက်သည် အောက်ပါအတိုင်းဖြစ်သည်ဟု မှတ်ယူရမည်-

(က) အစုရှယ်ယာများကို လက်ခံရရှိမည့်သူသည် ခွဲဝေပေးမည့် အစုရှယ်ယာပါ စည်းကမ်းချက်များကို လိုက်နာရန် သဘောတူညီ၍လက်ခံကြောင်း။

(ခ) အစုရှယ်ယာများကို လက်ခံရရှိမည့်သူသည် ယင်း၏အမည်ကို အစုရှယ်ယာရှင် အဖြစ် မှတ်ပုံတင်စာရင်းတွင်ထည့်သွင်းရန်တောင်းဆိုကြောင်း။

(ဂ) အစုရှယ်ယာများကို လက်ခံရရှိမည့်သူသည် ကုမ္ပဏီတွင်ပါဝင်သူ တစ်ဦးဖြစ်ရန် သဘောတူညီချက်ဖြင့် ဥပဒေနှင့်အညီ ဤဖွဲ့စည်းပုံအခြေခံစည်းမျဉ်းကို လိုက်နာမည် ဖြစ်ကြောင်း။

ပူးတွဲအစုရှယ်ယာရှင်များ

၁၂။ အစုရှယ်ယာတစ်ခုခုကို ပိုင်ဆိုင်ကြောင်း မှတ်ပုံတင်စာရင်းသွင်းထားသော နှစ်ဦးနှင့် နှစ်ဦးထက် ပိုသောသူများသည် ပူးတွဲအစုရှယ်ယာရှင်များအဖြစ် အဆိုပါအစုရှယ်ယာများကို ပိုင်ဆိုင်သည်ဟု မှတ်ယူရမည်ဖြစ်ပြီး ၎င်းတို့သည် အောက်တွင်ဖော်ပြသော ပြဋ္ဌာန်းချက်များကိုလိုက်နာရမည်-

(က) ပူးတွဲအစုရှယ်ယာရှင်များသည် အစုရှယ်ယာအတွက် သို့မဟုတ် အစုရှယ်ယာ နှင့် စပ်လျဉ်း၍ ပေးရန်လိုအပ်သော ငွေပေးချေခြင်း (တောင်းဆိုသည့်အခါပေးရန်ရှိ ပမာဏအပါအဝင်)ကို ပူးတွဲလျက်သော်လည်းကောင်း၊ သီးခြားစီသော်လည်းကောင်း ပေးချေရန်တာဝန်ရှိသည်၊

(ခ) ပူးတွဲရှယ်ယာရှင်တစ်ဦး သေဆုံးပါက၊ အသက်ရှင်ကျန်သူ သို့မဟုတ် အသက်ရှင် ကျန်သူများသည်သာ အစုရှယ်ယာကိုဆိုင်ရာ ဆိုင်ခွင့်ရှိသူများဖြစ်ကြောင်း ကုမ္ပဏီက အသိအမှတ်ပြုနိုင်သည်။ သို့သော် သေဆုံးကြောင်း သက်သေခံ အထောက်အထားကို ဒါရိုက်တာများကတင်ပြရန် တောင်းဆိုနိုင်သည်၊

(ဂ) ပူးတွဲရှယ်ယာရှင် တစ်ဦးဦးသည် အမြတ်ဝေစုများနှင့် အခြားခွဲဝေပေးခြင်းများ လက်ခံရရှိကြောင်း တရားဝင်ပြေစာကို အခြားပူးတွဲ အစုရှယ်ယာရှင်များထံသို့ ပေးအပ်နိုင်သည်၊

(ဃ) ပူးတွဲအစုရှယ်ယာရှင် တစ်ဦးဦးထံသို့ အကြောင်းကြားစာပေးခြင်း၊ အစီရင်ခံစာပေးခြင်း၊ ငွေစာရင်းရှင်းခြင်း၊အစုရှယ်ယာလက်မှတ်ပေးအပ်ခြင်းသည်ပူးတွဲအစုရှယ်ယာရှင်အားလုံး သို့ပေးပို့ပြီးဖြစ်သကဲ့သို့ဖြစ်စေရမည်နှင့်

(င) ပူးတွဲအစုရှယ်ယာရှင်များသည် ကုမ္ပဏီတွင် ပါဝင်သူဦးရေတစ်ဦးအဖြစ်သာ မှတ်ယူရမည်။

**အစုရှယ်ယာများနှင့်စပ်လျဉ်း၍ယုံကြည်အပ်နှံခြင်းများနှင့်အခြားအကျိုးခံစားခွင့်များကိုအသိအမှတ်ပြုခြင်း**

၁၃။ ဥပဒေကိုလိုက်နာလျက် ကုမ္ပဏီသည်မှတ်ပုံတင်ထားသည့် အစုရှယ်ယာရှင် အားထိုအစုရှယ်ယာကို အပြီးအပြတ်ပိုင်ဆိုင်သူအဖြစ် သတ်မှတ်ဆက်ဆံဆောင်ရွက်နိုင်သည်။ သို့နှင့်လျော်ညီစွာ ကုမ္ပဏီသည် (သိရှိပြီးဖြစ်စေ၊မသိရှိရသေးသည်ဖြစ်စေ) အောက်တွင်ဖော်ပြသော ပြဋ္ဌာန်းချက်များကို အသိအမှတ်ပြုရန် မလိုပါ-

(က) လူတစ်ယောက်အားယုံကြည်အပ်နှံမှုဖြင့်အစုရှယ်ယာလက်ရှိဖြစ်သူဖြစ်ကြောင်း။

(ခ) အစုရှယ်ယာတွင် သာတူညီမျှဖြစ်သော၊ မရေမရာသော၊ နောင်တွင်ဖြစ်သော၊ တစ်စိတ် တစ်ပိုင်းဖြစ်သော အကျိုးခံစားခွင့်ရှိကြောင်း။

အခန်း (၄)

အစုရှယ်ယာလက်မှတ်များ

အစုရှယ်ယာလက်မှတ်ထုတ်ပေးခြင်း

၁၄။ ကုမ္ပဏီသည် အစုရှယ်ယာ လက်မှတ်များကို ဥပဒေနှင့်အညီ ထုတ်ပေးရန် လိုအပ်ပါက ထုတ်ပေးရမည်ဖြစ်ပြီးအစုရှယ်ယာလက်မှတ်များတွင် ဥပဒေအရလိုအပ်သည့်အတိုင်း သတင်းအချက်အလက် အားလုံး ပါဝင်စေရမည်။

ကုမ္ပဏီတွင်ပါဝင်သူများသည်အစုရှယ်ယာလက်မှတ်ရထိုက်ခွင့်ရှိခြင်း

၁၅။ ဤဖွဲ့စည်းပုံ အခြေခံစည်းမျဉ်းအရ ကုမ္ပဏီတွင်ပါဝင်သူ တစ်ဦးချင်းစီသည် ၎င်းတို့အမည်ဖြင့် မှတ်ပုံတင်ထားသည့် အစုရှယ်ယာအမျိုးအစား အသီးသီးအတွက် အစုရှယ်ယာလက်မှတ် တစ်စောင်စီ အသီးသီးကိုတောင်းဆိုပါက အခမဲ့ရထိုက်ခွင့်ရှိပါသည်။

ပူးတွဲအစုရှယ်ယာရှင်များအတွက်အစုရှယ်ယာလက်မှတ်

၁၆။ အစုရှယ်ယာများကို ပုဂ္ဂိုလ်နှစ်ဦး သို့မဟုတ် နှစ်ဦးထက်ပိုသော ပုဂ္ဂိုလ်များအမည်ဖြင့် မှတ်ပုံတင်ထားသော်လည်း ကုမ္ပဏီသည် အစုရှယ်ယာ အမျိုးအစားအလိုက် အစုရှယ်ယာ အမျိုးအစား တစ်ရပ်စီအတွက် အစုရှယ်ယာလက်မှတ်တစ်ခုသာ ထုတ်ပေးရန်လိုအပ်သည်။

အစုရှယ်ယာလွှဲပြောင်းပေးခြင်းသို့မဟုတ်တစ်ဆင့်လွှဲအပ်ခြင်းအတွက်အစုရှယ်ယာလက်မှတ်ကိုပယ်ဖျက်ခြင်း

၁၇။ ဤဖွဲ့စည်းပုံအခြေခံစည်းမျဉ်းကို လိုက်နာလျက် ဥပဒေလိုအပ်ချက်နှင့်အညီ အစုရှယ်ယာများ လွှဲပြောင်းခြင်းကို မှတ်ပုံတင်စာရင်းသွင်းရန် သို့မဟုတ် အစုရှယ်ယာတစ်ခုခုကို ဥပဒေအရ တစ်ဦးဦးသို့ တစ်ဆင့်လွှဲအပ်ပေးခဲ့သည့်အတွက် ထိုသူကို အစုရှယ်ယာရှင်အဖြစ် မှတ်ပုံတင်စာရင်းသွင်းရန် လျှောက်ထား လာရာတွင် အဆိုပါအစုရှယ်ယာလက်မှတ်ကို ဖျက်သိမ်းရန်ကုမ္ပဏီသို့ပေးပို့ရမည်။

အစုရှယ်ယာလက်မှတ်အစားထိုးထုတ်ပေးခြင်း

၁၈။ ကုမ္ပဏီသည်အစုရှယ်ယာလက်မှတ်နှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါအချက်တစ်ခုခုဖြစ်ပွားကြောင်း ဖြင့်အစုရှယ်ယာလက်မှတ်အစားထိုးထုတ်ပေးရန်တောင်းဆိုလာပါကထိုအစုရှယ်ယာလက်မှတ်အတွက်အစား ထိုးထုတ်ပေးရမည်-

(က) အစုရှယ်ယာလက်မှတ် စုတ်ပြဲဖတ်မရဖြစ်၍ ယင်းသို့စုတ်ပြဲဖတ်မရသော အစုရှယ်ယာ လက်မှတ် ကိုကုမ္ပဏီသို့ပြန်လည်ပေးပို့လာခြင်း သို့မဟုတ်။

(ခ) အစုရှယ်ယာလက်မှတ်ပျောက်ဆုံးသို့မဟုတ်ပျက်စီးသွားခြင်း-

(၁) ပေါင်နှံ၊ ရောင်းချ၊ အခြားနည်း စီမံထားခြင်းမရှိဘဲ ထိုအစုရှယ်ယာလက်မှတ် ပျောက်ဆုံးပျက်ဆီးကြောင်းကုမ္ပဏီသို့သက်သေထင်ရှားပြ၍ နှင့်။

(၂) ထိုအစုရှယ်ယာလက်မှတ် ပြန်လည်တွေ့ရှိလက်ခံရရှိပါက ကုမ္ပဏီသို့ပြန်လည် ပေးပို့မည်ဖြစ်ကြောင်း တာဝန်ခံ၍။

၁၉။ ကုမ္ပဏီသည်မူရင်း အစုရှယ်ယာလက်မှတ် ပြန်လည်ပေးပို့လာခြင်း၊ အပိုဒ်-၁၈(ခ)ပါအတိုင်း သက်သေထင်ရှားပြခြင်း၊ အခြားနည်းတင်ပြလာခြင်းရှိပါက လက်ခံရရှိသည့်နေ့မှ ရက်ပေါင်း (၂၈) ရက် အတွင်း သို့မဟုတ် ထို့ထက်ပိုတိုတောင်းသော ကာလအတွင်း ဥပဒေလိုအပ်ချက်နှင့်အညီ အစုရှယ်ယာ လက်မှတ်အစား ထိုးထုတ်ပေးခြင်းပြုရမည်။

## အခန်း (၅)

## ပိုင်ဆိုင်ခွင့်နှင့်သိမ်းယူခံရခြင်း

ပိုင်ဆိုင်ခွင့်

၂၀။ အစုရှယ်ယာအသီးသီးနှင့်စပ်လျဉ်း၍ အောက်တွင်ဖော်ပြထားသော ပမာဏများကို ကုမ္ပဏီသည် ပထမဦးစားပေးပိုင်ဆိုင်ခွင့်ရှိသည်-

(က) အစုရှယ်ယာအတွက် ပေးချေရန်ရှိသော မပေးချေရသေးသည့် ပမာဏအားလုံး။

(ခ) အစုရှယ်ယာများရယူခြင်းအတွက် ကုမ္ပဏီကိုပေးရန်ရှိသော ကြွေးငွေပမာဏအားလုံး။

(ဂ) အစုရှယ်ယာနှင့် စပ်လျဉ်း၍ ကုမ္ပဏီသို့ ပေးချေရမည့် ငွေပမာဏအားလုံး။

(ဃ) အပိုဒ်-၄၀အရ အတိုးငွေ(ရှိလျှင်) (ထိုအပိုဒ်သည်အပိုဒ်-၃၉ အရ အကြွေးနှင့် ပမာဏများနှင့်လည်း အကျုံးဝင်သက်ဆိုင်သည်)နှင့်။

(င) ဤအပိုဒ်အရရည်ညွှန်းသော အချိန်စေ့ရောက်ပြီး မပေးချေရသေးသည့် ငွေပမာဏအတွက် ကုမ္ပဏီမှ ကျခံခဲ့သောသင့်လျော်သည့် ကုန်ကျစရိတ်နှင့် အသုံးစရိတ်များ။

ပိုင်ဆိုင်ခွင့်အတိုင်းအတာ

၂၁။ အစုရှယ်ယာတစ်ခုနှင့်စပ်လျဉ်း၍ ကုမ္ပဏီသည် အမြတ်ဝေစုနှင့် အခြားခွဲဝေခြင်းများနှင့် အစုရှယ်ယာကို ရောင်းချပြီး သို့မဟုတ် အခြားနည်းစွန့်လွှတ်ခြင်းဖြင့်ရသည့် ပစ္စည်းအကျိုးအမြတ်များ အပါအဝင် အစုရှယ်ယာနှင့် စပ်လျဉ်း၍ အစုရှယ်ယာရှင်သို့ ပေးနိုင်သော အခြားငွေပမာဏတို့ကို အထိ ပိုင်ဆိုင်ခွင့် ရှိသည်။ ကုမ္ပဏီ၏ပိုင်ဆိုင်ခွင့်ကိုအထောက်အထားပြု၍အပိုဒ်-၂၀တွင် ရည်ညွှန်းသော ပမာဏ တစ်ရပ်ရပ်၊ အကျိုးအမြတ်၊ ကုန်ကျစရိတ်နှင့် အသုံးစရိတ်တို့ကို အမြတ်ဝေစုနှင့် အခြားခွဲဝေခြင်းများ သို့မဟုတ် အခြားပမာဏများမှနုတ်ခြင်းသို့မဟုတ်ခုနှိမ်ခြင်းပြုနိုင်သည်။

ပိုင်ဆိုင်ခွင့်မှကင်းလွတ်ခွင့်ပြုခြင်း

၂၂။ မည်သည့်အခါတွင်မဆိုကုမ္ပဏီသည်-

(က) အပိုဒ်-၂၀နှင့် ၂၁ ပါပြဋ္ဌာန်းချက်များမှ အစုရှယ်ယာတစ်ခုကို တစ်ခုလုံး သို့မဟုတ် တစ်စိတ်တစ်ပိုင်းကင်းလွတ်ခွင့်ပြုနိုင်သည်။

(ခ) အစုရှယ်ယာတစ်စုအတွက် ပေးချေရန်ကျန်ရှိသည့် ငွေပမာဏမှလွဲ၍ အပိုဒ်-၂၀တွင် ရည်ညွှန်းသည့် ငွေပေးချေခြင်း တစ်ခုလုံး သို့မဟုတ် တစ်စိတ်တစ်ပိုင်း၏ ပမာဏ တစ်ရပ်ရပ်၊ အကျိုးအမြတ်/ အတိုး၊ ကုန်ကျစရိတ်၊ အသုံးစရိတ် တို့ကို မယူဘဲ စွန့်ပယ်ခြင်း သို့မဟုတ်လျှော့ပေးခြင်းပြုနိုင်သည်။

ကုမ္ပဏီသည်ပိုင်ဆိုင်ခွင့်ကိုကျင့်သုံးခြင်းအစားသိမ်းယူခြင်း

၂၃။ အစုရှယ်ယာတစ်ခုနှင့် စပ်လျဉ်း၍အပိုဒ်-၂၄မှ ၂၆နှင့် ၂၀မှ ၂၂ တို့ အကျိုးသက်ရောက်ပါက ကုမ္ပဏီသည် ၎င်း၏ ပိုင်ဆိုင်ခွင့် သို့မဟုတ် သိမ်းယူခြင်းကို ရွေးချယ် ဆောင်ရွက်နိုင်သည်။ ဤအပိုဒ်အရ လုပ်ထုံးလုပ်နည်း တစ်ခုကိုအသုံးပြုရန် ရွေးချယ်ခြင်းသည် အခြားအပိုဒ်အရ အခြားလုပ်ထုံးလုပ်နည်းကို အသုံးပြုနိုင်သည့်ကုမ္ပဏီ၏အခွင့်အရေးကိုကန့်သတ်ပိတ်ပင်ခြင်းမရှိပါ။

တောင်းဆိုသည့်အခါများတွင်ပေးချေခြင်းမပြုသည့်အတွက်သိမ်းယူခြင်း

၂၄။ အပိုဒ်-၂၀မှ ၂၂ထိကိုကန့်သတ်ခြင်းမရှိဘဲ၊ ကုမ္ပဏီမှ အခြားနည်းဆုံးဖြတ်ခြင်း မပြုလျှင်၊ ကုမ္ပဏီတွင် ပါဝင်သူသည် အကြောင်းကြားစာဖြင့် အကြောင်းကြား သတ်မှတ်သည့် ပေးချေရန် နေ့ရက်ကုန်ဆုံးပြီးနောက် ၂၈ရက်မြောက်နေ့တွင် ပေးချေရန် တောင်းဆိုပြီး မပေးချေသေးသည့် အစုရှယ်ယာ တစ်ခုခု (အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို) ဒါရိုက်တာများ၏ ဆုံးဖြတ်ချက်တစ်စုံတစ်ရာ သို့မဟုတ် အခြားအရေးယူဆောင်ရွက်မှုမရှိစေဘဲအပြည့်အဝသိမ်းယူမည်။၎င်းနောက်ကုမ္ပဏီသည်သိမ်းယူသည့်အစုရှယ်ယာကို ဖျက်သိမ်းခြင်း၊ ရောင်းချခြင်း သို့မဟုတ် အခြားနည်းဆောင်ရွက်ခြင်းကို ဥပဒေနှင့်အညီဆောင်ရွက်နိုင်သည်။

သိမ်းယူကြောင်းသက်သေခံချက်

၂၅။ အစုရှယ်ယာတစ်ခုကို သိမ်းယူပြီးဖြစ်ကြောင်း ဖော်ပြထားသည့် စာဖြင့် ရေးသား ကြေညာချက်ကို ဒါရိုက်တာတစ်ဦးသို့မဟုတ်အတွင်းရေးမှူးတစ်ဦးကပြုလုပ်ခဲ့ခြင်းဖြစ်လျှင်ယင်းကြေညာချက်သည်အစုရှယ်ယာကို ရထိုက်ခွင့်ရှိကြောင်း တောင်းဆိုသူအားလုံးအပေါ်၌ ဖြစ်စေ သို့မဟုတ် အခြားနည်းအားဖြင့် အဆိုပါ အစုရှယ်ယာနှင့် စပ်လျဉ်း၍ အကျိုးခံစားခွင့်ရှိသူအပေါ်၌ ဖြစ်စေ မငြင်းသာအောင် အပြီးသတ် ခိုင်မာသော သက်သေခံချက်ဖြစ်သည်။

**သိမ်းယူခြင်း၏ အကျိုးသက်ရောက်မှု**

**၂၆။ အစုရှယ်ယာတစ်ခုကိုသိမ်းယူခြင်းတွင်၊အစုရှယ်ယာသိမ်းယူခံရသူသည်-**

(က) **သိမ်းယူခြင်းခံရသည့်အစုရှယ်ယာနှင့် စပ်လျဉ်း၍ ကုမ္ပဏီတွင် ပါဝင်သူ အဖြစ်မှ ရပ်စဲပြီး ဖြစ်သည်။**

(ခ) အပိုဒ်-၂၆ (က)တွင် ဖော်ပြထားချက်အတိုင်းဟု ကန့်သတ်မထားဘဲ၊ သိမ်းယူခြင်းခံရသည့် အစုရှယ်ယာနှင့် စပ်လျဉ်း၍ ဆုံးဖြတ်သတ်မှတ်သော သို့မဟုတ် ကြေညာထားသော ပေးချေထားခြင်းမရှိသည့် အမြတ်ဝေစု သို့မဟုတ် အခြားခွဲဝေခြင်းများ အားလုံးကို ဆုံးရှုံးသည်။

(ဂ) အပိုဒ်-၄၀အရ တိုးပွားလာသည့် အမြတ်အစွန်း(ရှိလျှင်) အပါအဝင် သိမ်းယူသည့်နေ့တွင် သိမ်းယူသည့် အစုရှယ်ယာအတွက် ကုမ္ပဏီသို့ပေးရန်ရှိသော ငွေပမာဏကို ပေးရန် တာဝန်ကျန်ရှိသည်။ ကုမ္ပဏီတွင် ငွေပေးချေခြင်းကို အတင်းအကျပ်ပြုရန် တာဝန် မရှိစေရပါ။

**ပိုင်ဆိုင်ခွင့်အရအစုရှယ်ယာများရောင်းချခြင်းသို့မဟုတ်သိမ်းယူထားသည့်အစုရှယ်ယာများရောင်းချခြင်း**

**၂၇။ ကုမ္ပဏီသည် အပိုဒ်-၂၈ကိုလိုက်နာ၍ ပိုင်ဆိုင်ခွင့်ရှိသည့် သို့မဟုတ် သိမ်းယူရန် ဆုံးဖြတ်သည့် မည်သည့် အစုရှယ်ယာကိုမဆို ကုမ္ပဏီသည်ဒါရိုက်တာများက ဆုံးဖြတ်သည့် စည်းကမ်းချက်များနှင့်** နည်းလမ်းဖြင့် ဥပဒေလိုအပ်ချက်အတိုင်း လိုက်နာဆောင်ရွက်လျက် ရောင်းချခြင်းနှင့် စီမံခန့်ခွဲ အသုံးချခြင်း တို့ကို ပြုလုပ်နိုင်သည်။

၂၈။ ကုမ္ပဏီသည် ယင်းပိုင်ဆိုင်ခွင့်ရှိသည့် မည်သည့်အစုရှယ်ယာကိုမဆို အောက်တွင်ဖော်ပြထားသော အခြေအနေများ မဟုတ်လျှင်ရောင်းချခြင်းမပြုရ-

(က) ပိုင်ဆိုင်ခွင့်ရှိသည့် အစုရှယ်ယာနှင့် စပ်လျဉ်း၍ လတ်တလောကာလတွင် ပေးချေရန် အချိန်စေ့ရောက်သော ငွေပမာဏရှိလျှင် (ဤဖွဲ့စည်းပုံအခြေခံစည်းမျဉ်းတွင် ရပိုင်ခွင့်ရှိသော ငွေဟုသတ်မှတ်ရမည်)။

(ခ) ကုမ္ပဏီသည် အစုရှယ်ယာရှင်အဖြစ် မှတ်ပုံတင်စာရင်းသွင်းထားသူအား လတ်တလော ကာလတွင် ပေးချေရန် အချိန်စေ့ရောက်သည့် ငွေကိုပေးရန် လိုအပ်ကြောင်း ဖော်ပြ၍ စာဖြင့် ရေးသားထားသော အကြောင်းကြားစာကို ရောင်းချမည့်နေ့ရက်မတိုင်မီ (၂၈) ရက် ထက်

မနည်း ကြိုတင်၍ ပေးပို့အကြောင်းကြားပြီး ထိုသို့အကြောင်းကြားသည့် အတိုင်း ရပိုင်ခွင့်ရှိသော ငွေကို ပေးချေခြင်းမရှိပါလျှင်။

ရောင်းချရငွေ

၂၉။ ကုမ္ပဏီသည် အစုရှယ်ယာတစ်ခုကို ရောင်းချခြင်း သို့မဟုတ် အခြားနည်း စီမံခန့်ခွဲအသုံးချခြင်းဖြင့် ရရှိသည့် ရငွေကို အခန်း-၅အရ အောက်ပါအတိုင်း အသုံးပြုရမည်-

(က) ပထမဦးစွာအစုရှယ်ယာကို ရောင်းချခြင်း၊ အခြားနည်းဖြင့် စီမံခန့်ခွဲအသုံးချခြင်းပြုရာတွင် ကုန်ကျသောကုန်ကျစရိတ်နှင့်အသုံးစရိတ်အားလုံးအတွက်ငွေပေးချေခြင်း။

(ခ) ဒုတိယအနေဖြင့်၊ ပေးချေရမည့် ရပိုင်ခွင့်ရှိသောငွေ (ပိုင်ဆိုင်ခွင့်ကိစ္စတွင်) သို့မဟုတ် သိမ်းယူသည့် အစုရှယ်ယာနှင့် စပ်လျဉ်း၍ အစုရှယ်ယာရှင်အဖြစ် မှတ်ပုံတင်စာရင်း တင်သွင်းထားသူမှ မပေးချေရသေးသည့် ငွေပမာဏ (ဤဖွဲ့စည်းပုံ အခြေခံစည်းမျဉ်းတွင် အကြွေးတင်ကျန်ရှိနေသော ငွေကြေးဟု အဓိပ္ပာယ်ဖွင့်ဆိုထားသည့်ငွေ)။

၃၀။ ကုမ္ပဏီသည် လက်ကျန်ငွေ(ရှိလျှင်) အစုရှယ်ယာရှင်အဖြစ် မှတ်ပုံတင်စာရင်း တင်သွင်းထားသူ သို့မဟုတ် ထိုသူ၏ညွှန်ကြားချက်အတိုင်း ထိုလက်ကျန်ငွေပမာဏကို ပေးချေရမည်။

ရောင်းချခြင်းသို့မဟုတ်အခြားနည်းစီမံခန့်ခွဲအသုံးပြုခြင်း၏အကျိုးသက်ရောက်မှု

၃၁။ ကုမ္ပဏီသည် ဤအခန်း - ၅ ကိုအထောက်အထားပြု၍ အစုရှယ်ယာတစ်ခုကို ရောင်းချခြင်း အတွက် လိုအပ်သော၊ ချောမွေ့စေရန်အတွက် ဆန္ဒရှိဖွယ်ဖြစ်သော လိုအပ်သောအရာအားလုံးကို ဆောင်ရွက်နိုင်သည်။

၃၂။ ဤအခန်း-၅အရ ရောင်းချသည့် သို့မဟုတ် အခြားနည်းစီမံခန့်ခွဲလိုက်သည့် အစုရှယ်ယာကို လွှဲပြောင်း လက်ခံရရှိသူ သို့မဟုတ် အခြားနည်းလက်ခံရရှိသူသည် အစုရှယ်ယာ ရောင်းချခြင်း အခြားနည်း စီမံခန့်ခွဲခြင်းဖြင့် ရရှိသည့် ငွေကြေးကို ဤအခန်း-၅တွင် သတ်မှတ်ထားသည့် နည်းလမ်းအတိုင်း အသုံးပြုခြင်း ရှိမရှိသိရှိရန်မလိုအပ်ပါ။ အစုရှယ်ယာရောင်းချခြင်း သို့မဟုတ် အခြားနည်း စီမံခန့်ခွဲခြင်း သို့မဟုတ် ထိုသို့ရောင်းချစီမံခန့်ခွဲခြင်းဖြင့် ရရှိသည့်ငွေကြေးတို့ကို အသုံးချမှုတို့နှင့် စပ်လျဉ်း၍ ပုံမှန်အတိုင်း ဆောင်ရွက်မှုမရှိခြင်း၊ ခိုင်မာမှုမရှိ မမှန်မကန်ဆောင်ရွက်ခြင်း တို့ကြောင့် အစုရှယ်ယာ လွှဲပြောင်း လက်ခံရရှိသူ သို့မဟုတ် အခြားနည်း လက်ခံရရှိသူတို့၏ အစုရှယ်ယာပိုင်ဆိုင်ခွင့်ကို ထိခိုက်ခြင်းမရှိစေရ။

၃၃။ ဤအခန်း- ၅အရ ရောင်းချသည့် အစုရှယ်ယာ သို့မဟုတ် အခြားနည်း စီမံခန့်ခွဲသည့် အစုရှယ်ယာကို လွှဲပြောင်းလက်ခံရရှိသူ သို့မဟုတ် အခြားနည်းလက်ခံရရှိသူသည် ၄င်းတို့နှင့် ကုမ္ပဏီတို့အကြား အခြားနည်း သဘောတူထားခြင်းမရှိပါက အဆိုပါအစုရှယ်ယာကို ရောင်းချခြင်း သို့မဟုတ် အခြားနည်းစီမံခန့်ခွဲခြင်း မတိုင်မီက ယင်းအစုရှယ်ယာနှင့် စပ်လျဉ်းသည့် ကျသင့်သည့် ငွေကြေးတောင်းဆိုမှုများအပေါ် ပေးဆပ်ရန် တာဝန်မရှိစေရ။

တာဝန်ရှိမှုမှမလွတ်ကင်းခြင်း

၃၄။ ဤအခန်း-၅အရ အစုရှယ်ယာတစ်ခုကို ရောင်းချခြင်း သို့မဟုတ် အခြားနည်းစီမံခန့်ခွဲခြင်းဖြင့် ရရှိသည့် ငွေကြေးတို့သည် (အစုရှယ်ယာရောင်းချခြင်း သို့မဟုတ် အခြားနည်း စီမံခန့်ခွဲခြင်း ပြုရာတွင်

ကျသင့်သည့် ကုန်ကျစရိတ်နှင့် အသုံးစရိတ်များကို ပေးချေပြီးနောက်) ပေးချေရမည့် ရပိုင်ခွင့်ရှိသော ငွေ သို့မဟုတ် အကြွေးတင်ကျန်ရှိနေသော ငွေကြေးများ အပြည့်အဝပေးဆပ်ရန် လုံလောက်ခြင်း မရှိသည့်အခါတွင် ပေးချေရမည့် ရပိုင်ခွင့်ရှိသော ငွေသို့မဟုတ် အကြွေးတင်ကျန်ရှိနေသော ငွေကြေးများ အတွက် တာဝန်ရှိသူ သို့မဟုတ် တာဝန်ရှိသူများသည် ထိုရပိုင်ခွင့်ရှိသော ငွေကို ကုမ္ပဏီသို့ ပေးသွင်းရန် တာဝန်ကျန်ရှိပါသည်။ ဤအခန်း-၅အရ ဆောင်ရွက်ရာတွင် အစုရှယ်ယာရှင်အဖြစ် မှတ်ပုံတင်စာရင်း သွင်းသူသည် ပေးချေရမည့် ရပိုင်ခွင့်ရှိသော ငွေ သို့မဟုတ် ကြွေးတင်ကျန်ရှိနေသော ငွေကြေးနှင့် စပ်လျဉ်း၍ တာဝန်ရှိမှုမှ လွတ်ကင်းမည် မဟုတ်ပါ။

သက်သာခွင့်များ

၃၅။ ဤအခန်း-၅အရ၄င်းတို့၏ ရှယ်ယာများကို ရောင်းချခံရခြင်း သို့မဟုတ် အခြားနည်း စီမံခန့်ခွဲခြင်းခံရသည် တွင် နစ်နာသူမည်သူမဆိုသည် ကုမ္ပဏီကို လျော်ကြေးအတွက် အရေးယူ ဆောင်ရွက် ခွင့်သာရှိပြီး ကုမ္ပဏီကိုဖြစ်စေ အခြားသူတစ်ဦးဦးကိုဖြစ်စေ အခြားအခွင့်အရေးများ၊ သက်သာခွင့်များ သို့မဟုတ် ကုစားခွင့် စသည့် မည်သည့်အခွင့်အရေးများကို မဆို တားမြစ်ထားပါသည်။

## အခန်း (၆)

## တောင်းခေါ်ခြင်း

ကုမ္ပဏီမှတောင်းခေါ်ခြင်း

၃၆။ ကုမ္ပဏီသည်အောက်တွင်ဖော်ပြထားသောအချက်များကိုပြုလုပ်နိုင်သည်-

(က) ထုတ်ပေးသည့် ရှယ်ယာစည်းကမ်းချက်များအရ သတ်မှတ်အချိန်ကာလအတွင်း ပေးချေရန် ကန့်သတ်မထားသည့်ကုမ္ပဏီတွင်ပါဝင်သူ၏မပေးချေရသေးသောအစုရှယ်ယာပမာဏအား လုံးသို့မဟုတ်အချို့ကိုဒါရိုက်တာများ၏ဆုံးဖြတ်ချက်အတိုင်းပေးချေရန်တောင်းခေါ်ခြင်း။

(ခ) အရစ်ကျစနစ်ဖြင့်ပေးချေရန်တောင်းခေါ်ခြင်း နှင့်။

(ဂ) ပေးချေရန်တောင်းခေါ်ခြင်းကိုရုပ်သိမ်းခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်း သို့မဟုတ် အချိန် ကာလ တိုးမြှင့်ပေးခြင်း။

တောင်းခေါ်သည့်အချိန်ကာလ

၃၇။ တောင်းခေါ်ခြင်းကိုခွင့်ပြုကြောင်း သို့မဟုတ် ဆုံးဖြတ်ချက်တွင် အခြားနည်း သတ်မှတ်ကြောင်းဖြင့် ဒါရိုက်တာများ၏ ဆုံးဖြတ်ချက်ပြုသည့်အခါတွင် တောင်းခေါ်ခြင်းပြုပြီးသည်ဟု မှတ်ယူရမည်။

အကြောင်းကြားခြင်းနှင့်တောင်းခေါ်ခြင်းကိုပေးချေခြင်း

၃၈။ ကုမ္ပဏီသည် ပါဝင်သူသို့တောင်းခေါ်သည့် အကြောင်းကြားစာကို တောင်းခေါ်သည့် ပမာဏ ပေးဆပ်ရမည့် အချိန်မတိုင်မီ၂၁ရက် ကြိုတင်၍ စာဖြင့်ရေးသား အကြောင်း ကြားရမည်။ အကြောင်း ကြားစာတွင် ပေးချေရမည့် အချိန်ကာလနှင့် ပေးချေရန် နည်းလမ်းကို သတ်မှတ်ဖော်ပြရမည်။

တောင်းခေါ်သည့် အကြောင်းကြားစာမရရှိခြင်း သို့မဟုတ် တောင်းခေါ်သည့် အကြောင်းကြားစာ ပေးပို့ရန် မတော်တဆပျက်ကွက်ခြင်းသည် တောင်းခေါ်ခြင်းကို တရားမဝင်ပျက်ပြယ်စေခြင်း မရှိပါ။

ပေးချေမှုများကာလသတ်မှတ်ထားခြင်းကိုပေးချေရန်တောင်းခေါ်မှုဟုမှတ်ယူခြင်း

၃၉။ အစုရှယ်ယာထုတ်ပေးသည့် စည်းကမ်းချက်အရ ထုတ်ပေးချိန်တွင်ပေးရန် သို့မဟုတ် ပေးရန် သတ်မှတ်ရက်တွင် ဤဖွဲ့စည်းပုံအခြေခံစည်းမျဉ်း၏ ရည်ရွယ်ချက်အလို့ငှာ ပေးရမည့်ပမာဏကို သတ်မှတ်သည့်ရက်တွင် ပေးချေရန် အကြောင်းကြားပြီး ဖြစ်ကြောင်းနှင့် တောင်းခေါ်ပြီးဖြစ်ကြောင်း မှတ်ယူရမည်။ အတိုးအမြတ်ပေးချေခြင်း၊ ကုန်ကျစရိတ်နှင့် အသုံးစရိတ်ကျခံခြင်း၊ ကုမ္ပဏီတွင် ပါဝင်သူများ၏ အစုရှယ်ယာများကို သိမ်းယူခြင်းနှင့် ဖျက်သိမ်းခြင်း သို့မဟုတ် ရောင်းချခြင်း သို့မဟုတ် အခြားနည်းဖြင့် စီမံခန့်ခွဲခြင်းတို့ အပါအဝင် တောင်းခေါ်ခြင်းအပေါ် ပေးချေခြင်းမပြုသည့် ကိစ္စနှင့် သက်ဆိုင်သည့် ဤဖွဲ့စည်းပုံ အခြေခံစည်းမျဉ်းပါ ပြဋ္ဌာန်းချက်အားလုံးသည် တောင်းခံသည့် ပမာဏကိုပေးရန် တောင်းခေါ် အကြောင်းကြားပြီး ဖြစ်သည်ဟုမှတ်ယူရမည်။

ပေးချေခြင်းမပြုသည့်ပမာဏအတွက်အတိုးငွေ

၄၀။ အစုရှယ်ယာနှင့်ပတ်သက်၍ ပေးရန်တောင်းခေါ်သော်လည်း ပေးဆပ်ခြင်းမပြုလျှင် သို့မဟုတ် အမှန်တကယ် ပေးချေသည့်နေ့နှင့် ပေးချေရမည့်နေ့ အကြားခြားနားသည့်နေ့အတွက် ဒါရိုက်တာများ ဆုံးဖြတ်နိုင်သည့် နှုန်းထားအတိုင်း အတိုးငွေကျသင့်စေနိုင်သည်။ ကုမ္ပဏီသည် အတိုးငွေကိုအားလုံးဖြစ်စေ တစ်စိတ်တစ်ပိုင်း ဖြစ်စေစွန့်လွှတ်နိုင်သည်။

တောင်းခေါ်သည့်အတွက်ပေးချေခြင်း

၄၁။ ကုမ္ပဏီတွင်ပါဝင်သူသည် ပေးချေရန်တောင်းဆိုသည့်အခါ တိုင်းဒါရိုက်တာများက သတ်မှတ်သည့် အချိန်ကာလအတိုင်း သတ်မှတ်သည့် နည်းလမ်းဖြင့် သို့မဟုတ် တောင်းခေါ်သည့် အစုရှယ်ယာ ထုတ်ပေးသည့် စည်းကမ်းချက်အတိုင်း ပေးချေရမည်။

တောင်းခေါ်ရာတွင်ကြိုတင်ပေးချေခြင်း

၄၂။ ကုမ္ပဏီတွင် ပါဝင်သူသည် ၎င်းပိုင်ဆိုင်သည့် အစုရှယ်ယာအတွက် မပေးချေရသည့် ပမာဏ တစ်ရပ်လုံးကိုဖြစ်စေ တစ်စိတ်တစ်ပိုင်းကိုဖြစ်စေ ပေးချေရန် တောင်းခေါ်သည့်အခါ တောင်းခေါ်သည့် ပမာဏ (ရှိလျှင်)ထက်ကျော်လွန်၍ မည်သည့်အချိန်တွင်မဆို ကုမ္ပဏီသို့ ပေးချေနိုင်သည်။

## အခန်း (၇)

## အစုရှယ်ယာလွှဲပြောင်းပေးခြင်း

လွှဲပြောင်းသည့် စာရွက်စာတမ်းများ

၄၃။ ဤဖွဲ့စည်းပုံအခြေခံစည်းမျဉ်းနှင့် ဥပဒေတို့ကိုလိုက်နာလျက် ကုမ္ပဏီတွင် ပါဝင်သူတစ်ယောက်သည် သင့်လျော်စွာ တံဆိပ်ခပ်နှိပ်ထားသော လွှဲပြောင်းခြင်းဆိုင်ရာ စာရွက်စာတမ်းကို ကုမ္ပဏီသို့ ပေးပို့၍ အစုရှယ်ယာများကို လွှဲပြောင်းနိုင်သည်။ လွှဲပြောင်းခြင်းဆိုင်ရာ စာရွက်စာတမ်းတွင် အောက်ပါအတိုင်း ဖော်ပြ ဆောင်ရွက်ရမည်-

( က) အသုံးပြုလေ့ရှိသည့် သာမန်ပုံစံဖြင့် သို့မဟုတ် ဒါရိုက်တာများက ဆုံးဖြတ်သတ်မှတ်သည့် သို့မဟုတ် လက်ခံရန် သဘောတူညီသည့် အခြားပုံစံဖြင့် ရေးသားဖော်ပြရမည်။

(ခ) လွှဲပြောင်းသူ၏ သို့မဟုတ် လွှဲပြောင်းခြင်းကို လက်ခံသူ၏ (သို့မဟုတ်နှစ်ဦးလုံး၏) လွှဲပြောင်းမှု ရလာဒ်အရ နိုင်ငံခြားကော်ပိုရေးရှင်း သို့မဟုတ် အခြားနိုင်ငံခြားသား (သို့မဟုတ် ၎င်းတို့ပေါင်းစပ်၍) လက်ခံရရှိမည် ဖြစ်ကြောင်း သို့မဟုတ် ကုမ္ပဏီ၏ အစုရှယ်ယာ အကျိုးအမြတ်ပိုင်ဆိုင်ခြင်းမှ ရပ်စဲကြောင်းတို့ အပါအဝင် ဥပဒေအရ လိုအပ်သော သတင်းအချက်အလက် အားလုံးပါဝင်ရမည်။

(ဂ) လွှဲပြောင်းပေးသူနှင့် လွှဲပြောင်းခြင်းကို လက်ခံရယူသူတို့ ကိုယ်တိုင်ဖြစ်စေ၊ ကိုယ်စားလှယ်တို့ကဖြစ်စေ လက်မှတ်ရေးထိုးရမည် သို့မဟုတ် ဥပဒေကခွင့်ပြုသည့် အခြားနည်းအတိုင်း ဆောင်ရွက်ရမည်။

(ဃ) လွှဲပြောင်းမည့် အစုရှယ်ယာအတွက် အစုရှယ်ယာလက်မှတ် (ဥပဒေအရ လိုအပ်ပြီး ထိုအစုရှယ်ယာ လက်မှတ်ကို ထုတ်ပေးထားပြီးဖြစ်လျှင်) နှင့် လွှဲပြောင်းသူ ပိုင်ဆိုင်ကြောင်း အထောက်အထား သို့မဟုတ် အစုရှယ်ယာကို လွှဲပြောင်းခွင့်ရှိကြောင်း အထောက်အထား စသည့် ဒါရိုက်တာက လိုအပ်သည် ဆိုသော သက်သေခံအထောက်အထားများ ပူးတွဲပါဝင်ရမည်။

လွှဲပြောင်းခြင်းကိုမှတ်ပုံတင်ခြင်း

၄၄။ အပိုဒ်-၄၅ကို အထောက်အထားပြု လိုက်နာလျက်အပိုဒ်-၄၃အရ ကုမ္ပဏီသည် အစုရှယ်ယာများ လွှဲပြောင်းမှု တစ်ခုချင်းစီကို မှတ်ပုံတင်စာရင်း သွင်းရမည်ဖြစ်ပြီး ထိုသို့ မှတ်ပုံတင်စာရင်း သွင်းခြင်းကို အခမဲ့ဆောင်ရွက်ပေးရမည်။

လွှဲပြောင်းခြင်းမှတ်ပုံတင်စာရင်းသွင်းခြင်းကိုဒါရိုက်တာများကခွင့်မပြုဘဲငြင်းပယ်နိုင်ခြင်း

၄၅။ ဥပဒေကို အထောက်အထားပြု လိုက်နာလျက် ဒါရိုက်တာများသည် အစုရှယ်ယာလွှဲပြောင်းခြင်းကို မှတ်ပုံတင် စာရင်းသွင်းပေးရန် ဤအခန်း-၇ အရ လိုအပ်သော အခြားစာရွက်စာတမ်းများနှင့်အတူ တင်ပြသော လွှဲပြောင်းရန်အတွက် လျှောက်လွှာကို လက်ခံရရှိသည့်နေ့မှစ၍ ၂၁ရက်အတွင်း ငြင်းပယ်နိုင်ပြီး ဘုတ်အဖွဲ့က အစုရှယ်ယာလွှဲပြောင်းခြင်း ငြင်းပယ်ကြောင်း အကြောင်းပြချက်ပါရှိသည့် ဆုံးဖြတ်ချက် ချမှတ်ရမည်။ ကုမ္ပဏီသည် ငြင်းပယ်သည့် ဆုံးဖြတ်ချက်ကို အကြောင်းပြချက်နှင့်တကွ ထုတ်ပြန်ပြီး နောက်၇ရက်အတွင်း လွှဲပြောင်းလက်ခံမည့်သူနှင့် လွှဲပြောင်းမည့်သူတို့ထံ အကြောင်းကြားရမည်။

လွှဲပြောင်းခြင်းစာရွက်စာတမ်းများကိုဆက်လက်ထိန်းသိမ်းထားရှိခြင်းနှင့်ပြန်လည်ပေးအပ်ခြင်း

၄၆။ ကုမ္ပဏီသည်-

(က) အစုရှယ်ယာလွှဲပြောင်းခြင်းများကို မှတ်ပုံတင်စာရင်းသွင်းရန် အတွက် လွှဲပြောင်းခြင်း စာရွက်စာတမ်း အားလုံးကို ဒါရိုက်တာများက ဆုံးဖြတ်သတ်မှတ်သည့် ကာလအတွင်း သို့မဟုတ် ဥပဒေလိုအပ်ချက်အတိုင်း ထိန်းသိမ်းထားရှိရမည်။

(ခ) လိမ်လည်ကြောင်း သို့မဟုတ် လိမ်လည်ကြောင်း သံသယဖြစ်ဖွယ်ရှိသည့် ကိစ္စမှတစ်ပါး ဒါရိုက်တာများက မှတ်ပုံတင်စာရင်း သွင်းပေးရန် ငြင်းပယ်သည့် အစုရှယ်ယာ လွှဲပြောင်းခြင်း စာရွက်စာတမ်းများကို ပြန်တောင်းပါက ပေးပို့သူထံ ပြန်လည်ပေးပို့ရမည်။

**မှတ်ပုံတင်တွင်အမည်စာရင်းမသွင်းရသေးသည့်အချိန်အထိလွှဲပြောင်းခြင်းလုပ်ငန်းမပြီးဆုံးသေးခြင်း**

၄၇။ အစုရှယ်ယာ လွှဲပြောင်းရယူသူ၏ အမည်ကို အစုရှယ်ယာရှင်အဖြစ် အမည် မှတ်ပုံတင် စာရင်းသွင်းပြီးသည့် အချိန်မတိုင်မီ အထိ အစုရှယ်ယာလွှဲပြောင်းပေးသူသည် အစုရှယ်ယာရှင် အဖြစ် ဆက်လက်တည်ရှိပါသည်။

## အခန်း (၈)

## အစုရှယ်ယာများတစ်ဆင့်ခံလွှဲပြောင်းခြင်း

**ကုမ္ပဏီတွင်ပါဝင်သူတစ်ဦးသေဆုံးခြင်း**

၄၈။ ကုမ္ပဏီတွင်ပါဝင်သူတစ်ဦးသေဆုံးပါက-

(က) အစုရှယ်ယာကို ပူးတွဲပိုင်ဆိုင်ခဲ့လျှင် သက်ရှင်ကျန်ရှိသူကိုသာ အဆိုပါ အစုရှယ်ယာများကို အကျိုးခံစားခွင့်ရှိသူ အစုရှယ်ယာပိုင်ဆိုင်ခွင့်ရှိသူအဖြစ် ကုမ္ပဏီက အသိအမှတ်ပြုမည်။

(ခ) အစုရှယ်ယာကို တစ်ဦးတည်းပိုင်ဆိုင်ခဲ့လျှင် ကုမ္ပဏီတွင်ပါဝင်သူ၏ ဥပဒေအရ ကိုယ်စားလှယ်ကိုသာ အဆိုပါ အစုရှယ်ယာများကို အကျိုးခံစားခွင့်ရှိသူ အစုရှယ်ယာ ပိုင်ဆိုင်ခွင့်ရှိသူ အဖြစ် ကုမ္ပဏီက အသိအမှတ်ပြုမည်။

၄၉။ အပိုဒ်-၄၈ပါဖော်ပြချက်မှာ ကုမ္ပဏီတွင် ပါဝင်သောသေဆုံးသူ၏ တရားဝင်ဆက်ခံခွင့် ရှိသူသည် ၎င်းတစ်ဦးတည်းဖြစ်စေ ပူးတွဲ၍ဖြစ်စေ အစုရှယ်ယာများကို ပိုင်ဆိုင်စေကာမူ ကုမ္ပဏီသို့ အစုရှယ်ယာနှင့် စပ်လျဉ်း၍ မပေးချေရသေးသည့် ပမာဏ သို့မဟုတ် အခြားပေးရန် တာဝန်ရှိမှုကို စွန့်လွှတ်ခြင်းမရှိစေရ။

## အခန်း (၉)

## မတည်ငွေရင်းပြောင်းလဲပြင်ဆင်ခြင်း

၅၀။ ကုမ္ပဏီသည် ဥပဒေကခွင့်ပြုသည့် အပြုအမူအတိုင်း ၎င်း၏ မတည်ငွေရင်းကို ပြောင်းလဲပြင်ဆင်နိုင်သည်။ ဥပဒေကိုအထောက်အထားပြု လိုက်နာလျက် ကုမ္ပဏီ၏ အစုရှယ်ယာ မတည်ငွေရင်းကို ပြောင်းလဲပြင်ဆင်ရန် ဆုံးဖြတ်ချက်ကို အကျိုးသက်ရောက်မှုရှိစေရန် ဒါရိုက်တာများက လိုအပ်သလို ဆောင်ရွက်နိုင်သည်။

## အခန်း (၁၀)

## အခွင့်အရေးနှင့်ကန့်သတ်မှုများကိုပြောင်းလဲခြင်းနှင့်ပယ်ဖျက်ခြင်း

**အစုရှယ်ယာအမျိုးအစားနှင့်စပ်လျဉ်း၍အခွင့်အရေးနှင့်ကန့်သတ်မှုများကိုပြောင်းလဲခြင်းနှင့်ပယ်ဖျက်ခြင်း**

၅၁။ အစုရှယ်ယာများထုတ်ပေးသည့် စည်းကမ်းချက်များနှင့် ဥပဒေကို အထောက်အထား ပြုလိုက်နာလျက် အစုရှယ်ယာ အမျိုးအစားတစ်ရပ်မှ အခြားအမျိုးအစားတစ်ရပ်သို့ ပြန်လည်ပြောင်းလဲ ခွဲခြားသတ်မှတ်ခြင်း အပါအဝင် မည်သည့်အစုရှယ်ယာ အမျိုးအစားပေါ်တွင်မဆို ပူးတွဲထားသည့် သို့မဟုတ် စည်းနှောင်ထားသည့် အခွင့်အရေးများနှင့် ကန့်သတ်ချက်များကို အောက်ပါအတိုင်း ပြောင်းလဲခြင်း သို့မဟုတ် ပယ်ဖျက်ခြင်း ပြုနိုင်သည်-

(က) အဆိုပါ အမျိုးအစားရှိ အစုရှယ်ယာရှင်များ၏ အနည်းဆုံး၇၅% က စာဖြင့် ရေးသားသဘောတူညီချက် ပေးခြင်းဖြင့်။

(ခ) အဆိုပါ အမျိုးအစားရှိ အစုရှယ်ယာရှင်များ၏ အစည်းအဝေးမှ ချမှတ်သောအထူး ဆုံးဖြတ်ချက်ဖြင့် သဘောတူညီမှုအရဆောင်ရွက်ခြင်းဖြင့်။

**အမျိုးအစားတူအစုရှယ်ယာများဆက်လက်ထုတ်ခြင်းဖြင့်မပြောင်းလဲခြင်း**

၅၂။ အစုရှယ်ယာများထုတ်ပေးသည့် စည်းကမ်းချက်များနှင့်အညီ တူညီသော အခွင့်အရေးနှင့် ကန့်သတ်ချက်များရှိသည့် အမျိုးအစားတူ အစုရှယ်ယာများ ဆက်လက် ထုတ်ခြင်းဖြင့် မည်သည့်အစုရှယ်ယာ အမျိုးအစားပေါ်တွင်မဆို ပူးတွဲထားသည့် သို့မဟုတ် စည်းနှောင်ထားသည့် အခွင့်အရေးများနှင့် ကန့်သတ်ချက်များကို ပြောင်းလဲစေသည်ဟုမှတ်ယူခြင်းမရှိစေရပါ။

**ဖွဲ့စည်းပုံအခြေခံစည်းမျဉ်းအားပြောင်းလဲခြင်း**

၅၃။ ကုမ္ပဏီတွင် ပါဝင်သူတစ်ဦးစီသည် ကုမ္ပဏီတွင် ပါဝင်သူတစ်ဦး ဖြစ်လာသည့် နေ့မှစ၍ ဤဥပဒေနှင့်အညီ ပြုလုပ်ထားသည့် ဖွဲ့စည်းပုံအခြေခံစည်းမျဉ်း၏ ပြင်ဆင်ထားချက်များအား လိုက်နာဆောင်ရွက်ရန် သဘောတူညီကြသည်။

## အခန်း (၁၁)

## အထွေထွေအစည်းအဝေးများ

နှစ်ပတ်လည်အထွေထွေအစည်းအဝေးများ

၅၄။ နှစ်ပတ်လည်အထွေထွေအစည်းအဝေးများကို ဥပဒေနှင့်အညီ ဥပဒေ လိုအပ်ချက်အတိုင်း ကျင်းပရမည်။ အစည်းအဝေး အကြောင်းကြားစာတွင် ထည့်သွင်းဖော်ပြသည်ဖြစ်စေ၊ မဖော်ပြသည် ဖြစ်စေ နှစ်ပတ်လည် အထွေထွေအစည်းအဝေး လုပ်ငန်းတွင် အောက်ပါတို့ပါဝင်သည်-

(က) ကုမ္ပဏီက ပြင်ဆင်ရန် လိုအပ်ပါက နှစ်ပတ်လည် ဘဏ္ဍာရေးဆိုင်ရာ ရှင်းတမ်းများ၊ ဒါရိုက်တာများ၏ အစီရင်ခံစာနှင့် စာရင်းစစ်အစီရင်ခံစာတို့ကို လက်ခံခြင်းနှင့် ဆွေးနွေးတိုင်ပင်ခြင်း။

(ခ) အထွေထွေအစည်းအဝေးကျင်းပရန် အကြောင်းကြားစာပေးပို့ခြင်းနှင့်စပ်လျဉ်း၍ အပိုဒ်-၅၈ ပါ အတိုင်းတိတိကျကျလိုက်နာရန်ပျက်ကွက်ခြင်း။

အစုရှယ်ယာအမျိုးအစားအလိုက်ကျင်းပသောအစည်းအဝေး

၆၁။ အထွေထွေ အစည်းအဝေးကျင်းပခြင်း နှင့် သက်ဆိုင်သော ဤဖွဲ့စည်းပုံ အခြေခံစည်းမျဉ်းပါ ပြဋ္ဌာန်းချက်များသည် အစုရှယ်ယာအမျိုးအစား တစ်ရပ်ရပ်တွင် ပါရှိသော အစုရှယ်ယာရှင်များက ပြုလုပ်သည့် အစည်းအဝေးတိုင်းတွင် လိုအပ်သလိုပြောင်းလဲကာ ကျင့်သုံးနိုင်သည်၊သို့သော်-

(က) အစည်းအဝေးအထမြောက်စေရန်တက်ရောက်ရမည့်သတ်မှတ်ဦးရေသည်-

(၁) အစုရှယ်ယာအမျိုးအစားတစ်ရပ်ကို တစ်ဦးတည်းပိုင်ဆိုင်လျှင် ထိုအစုရှယ်ယာရှင် သို့မဟုတ်။

(၂) အစုရှယ်ယာအမျိုးအစား တစ်ရပ်ကို နှစ်ဦး နှင့် နှစ်ဦး ထက်ပိုသောသူများက ပိုင်ဆိုင်လျှင် အနည်းဆုံးနှစ်ဦး ဖြစ်သည်။

(ခ) အစုရှယ်ယာ အမျိုးအစား တစ်ရပ်ပိုင်ဆိုင်သည့် အစည်းအဝေး တက်ရောက်သူသည် မဲခွဲဆုံးဖြတ်ခြင်းကို တောင်းဆိုနိုင်သည်။

## အခန်း (၁၂)

## အထွေထွေအစည်းအဝေးတွင်ဆောင်ရွက်ချက်များ

### ကုမ္ပဏီတွင်ပါဝင်သူသည်အစည်းအဝေးတက်ရောက်သည်ဟုမှတ်ယူခြင်း

၆၂။ ကုမ္ပဏီတွင်ပါဝင်သူတစ်ဦးသည်အထွေထွေအစည်းအဝေးတွင်တက်ရောက်နိုင်ပြီးအောက်ဖော်ပြပါ နည်းလမ်းတစ်ရပ်ရပ်အရလည်းအစည်းအဝေးတွင်တက်ရောက်သည်ဟုမှတ်ယူနိုင်သည်-

(က) ကိုယ်တိုင်တက်ရောက်ခြင်း။

(ခ) တရားဝင်လွှဲအပ်ထားသော်ရှေ့နေဖြင့်တက်ရောက်ခြင်း။

(ဂ) ကိုယ်စားလှယ်ဖြင့်တက်ရောက်ခြင်း။

(ဃ) ကုမ္ပဏီတွင်ပါဝင်သူသည် (ကော်ပိုရေးရှင်း အဖွဲ့အစည်းတစ်ခု) ဖြစ်ပါက ကုမ္ပဏီ ကိုယ်စားပြုပုဂ္ဂိုလ်ဖြင့် တက်ရောက်ခြင်း။

ကုမ္ပဏီတွင်ပါဝင်သူ၏တရားဝင်လွှဲအပ်ထားသောရှေ့နေ

၆၃။ ကုမ္ပဏီတွင်ပါဝင်သူသည် သတ်မှတ်ကာလအတွင်း ကျင်းပသည့် အထွေထွေအစည်းအဝေးတွင် ဖြစ်စေ၊အထွေထွေအစည်းအဝေးတစ်ခုခု သို့မဟုတ် အားလုံးတွင်ဖြစ်စေ ၎င်းတို့ကိုယ်စား ဆောင်ရွက်ရန် တရားဝင်လွှဲအပ်ထားသောရှေ့နေကိုခန့်ထားနိုင်သည်။ကုမ္ပဏီတွင်ပါဝင်သူကိုယ်စားရှေ့နေကဆောင်ရွက်မည့်

ပထမအစည်းအဝေးမကျင်းပမီ ရှေ့နေကိုယ်စားလှယ်လွှဲစာကို ကုမ္ပဏီ၏ရုံးခန်းတွင်ဖြစ်စေ အစည်းအဝေး အကြောင်းကြားစာတွင်သတ်မှတ်ဖော်ပြသည့်နေရာတွင်ဖြစ်စေတင်ပြထားရမည်။အထွေထွေအစည်းအဝေးမှ ဥက္ကဋ္ဌက တောင်းဆိုသည့်အခါ ပြန်လည်မရုပ်သိမ်းနိုင်သော ရှေ့နေကိုယ်စားလှယ်လွှဲစာကို ဥက္ကဋ္ဌထံတင်ပြ ရမည်။ဥပဒေကို အထောက်အထားပြုလိုက်နာလျက် ရှေ့နေ၏တရားဝင်မှုကို ဥက္ကဋ္ဌ၊ ဥက္ကဋ္ဌမရှိလျှင် ဒါရိုက်တာများ၏ဆုံးဖြတ်ချက်သည်အပြီးသတ်နှင့်စည်းနှောင်မှုရှိစေရမည်။

**ကုမ္ပဏီကိုယ်စားပြုပုဂ္ဂိုလ်**

**၆၄။ ကော်ပိုရေးရှင်း အဖွဲ့အစည်းတစ်ခုဖြစ်သည့် ကုမ္ပဏီတွင် ပါဝင်သူသည် ဥပဒေအရ လူပုဂ္ဂိုလ် တစ်ဦးဦးကို ၎င်း၏ကိုယ်စားလှယ်အဖြစ် သတ်မှတ်ကာလအတွင်း ကျင်းပသည့် အထွေထွေအစည်းအဝေး တွင်ဖြစ်စေ၊ အထွေထွေအစည်းအဝေးတစ်ခုခု သို့မဟုတ် အားလုံးတွင်ဖြစ်စေ ၎င်းတို့ကိုယ်စားဆောင်ရွက်ရန် အခွင့်အာဏာပေး၍ ခန့်ထားနိုင်သည်။ ထိုကုမ္ပဏီကိုယ်စားပြု ပုဂ္ဂိုလ်သည် ၎င်းကိုခန့်အပ်သည့် ကော်ပိုရေးရှင်းအဖွဲ့အစည်းဖြစ်သည့်ကုမ္ပဏီတွင် ပါဝင်သူကဲ့သို့အာဏာရှိပြီး ဆုံးဖြတ်ချက်ချမှတ်ဆောင်ရွက် ခြင်းများတွင်လည်း ကုမ္ပဏီတွင်ပါဝင်သူကဲ့သို့ မဲပေးခြင်းဆောင်ရွက်နိုင်သည်။**

**အစည်းအဝေးအထမြောက်ရန်လိုအပ်သည့်ဦးရေ**

၆၅။ အစည်းအဝေးကျင်းပနေစဉ်ကာလ တစ်လျှောက်အစည်းအဝေး အထမြောက်ရန်အနည်းဆုံး လူဦးရေတက်ရောက်ခြင်းမရှိပါက အထွေထွေအစည်းအဝေးအထမမြောက်သဖြင့်အစည်းအဝေးတွင်လုပ်ငန်း ဆောင်တာများကိုဆွေးနွေးဆောင်ရွက်ခြင်းမပြုနိုင်ပါ။ အစည်းအဝေးအထမြောက်ရန်အနည်းဆုံးလူဦးရေကို အောက်ပါအတိုင်းရေတွက်ဖွဲ့စည်းရမည်-

(က) ကုမ္ပဏီတွင်ပါဝင်သူတစ်ဦးသာရှိပါကထိုသူဖြင့် လည်းကောင်း။

(ခ) ကုမ္ပဏီတွင်ပါဝင်သူနှစ်ဦး သို့မဟုတ် နှစ်ဦးအထက်ရှိပါက ကုမ္ပဏီတွင်ပါဝင်သူ နှစ်ဦးဖြင့် လည်းကောင်း။

**အစည်းအဝေးအထမြောက်ရန်အနည်းဆုံးဦးရေတက်ရောက်မှုမရှိခြင်း**

၆၆။ အထွေထွေအစည်းအဝေးအတွက် ချိန်းဆိုသည့်အချိန်နောက်ပိုင်း မိနစ် ၃၀ အတွင်း အစည်းအဝေး ထမြောက်ရန် အနည်းဆုံးဦးရေတက်ရောက်ခြင်းမရှိပါက-

(က) ကုမ္ပဏီတွင်ပါဝင်သူများက ကျင်းပသည့် သို့မဟုတ် ကုမ္ပဏီတွင် ပါဝင်သူများ၏ တောင်းဆိုချက်အရဒါရိုက်တာများက ခေါ်ယူကျင်းပသည့်အစည်းအဝေးဖြစ်ပါကရုပ်သိမ်း မည်။

(ခ) အခြားအစည်းအဝေးများဖြစ်ပါက နောက်တစ်ပတ်သို့ နေ့ရက်တူ အချိန်တူ နေရာတူသို့ ရွှေ့ဆိုင်းနိုင်သည် သို့မဟုတ် ဒါရိုက်တာများကဆုံးဖြတ်သည့်အခြားနေ့၊အခြားအချိန်၊အခြား နေရာသို့ရွှေ့ဆိုင်းချိန်းဆိုနိုင်သည်။ထိုသို့ရွှေ့ဆိုင်းပါကကုမ္ပဏီတွင်ပါဝင်သူများနှင့်ဤဖွဲ့စည်း ပုံအခြေခံစည်းမျဉ်း သို့မဟုတ် ဥပဒေအရ အကြောင်းကြားစာရ ထိုက်ခွင့်ရှိသည့် အခြားသက်ဆိုင်သူများထံ အကြောင်းကြားရမည်။ ရွှေ့ဆိုင်းသည့်နေ့၊ အစည်းအဝေး သတ်မှတ်ချိန်၏နောက်မိနစ်(၃၀)အတွင်းအစည်းအဝေးအထမြောက်ရန်တက်ရောက်ရမည့်

အနည်းဆုံးဦးရေတက်ရောက်လာခြင်းမရှိကတက်ရောက်လာသည့်ဦးရေကိုပင်အထမြောက်ရန်အနည်းဆုံးဦးရေအဖြစ်မှတ်ယူကာမူလအကြောင်းကြားစာပါအစည်းအဝေးလုပ်ငန်းများဆက်လက်ဆောင်ရွက်နိုင်သည်။

အထွေထွေအစည်းအဝေးဥက္ကဋ္ဌ

၆၇။ အထွေထွေအစည်းအဝေးတိုင်းတွင် ဒါရိုက်တာများ၏ဥက္ကဋ္ဌ၊ ဒါရိုက်တာများ၏ ဥက္ကဋ္ဌမရှိကဒါရိုက်တာများ၏ ဒုတိယဥက္ကဋ္ဌ(ရှိလျှင်) သည်အစည်းအဝေးဥက္ကဋ္ဌ အဖြစ်ဆောင်ရွက်ခွင့်ရှိသည်။ ဒါရိုက်တာများ၏ဥက္ကဋ္ဌနှင့်ဒုတိယဥက္ကဋ္ဌများမရှိဘဲ၎င်းတို့နှစ်ဦးသည်အစည်းအဝေးစရန်သတ်မှတ်ချိန်နောက်ပိုင်းမိနစ်၃၀အတွင်းတက်ရောက်လာခြင်းမရှိလျှင် သို့မဟုတ် ဥက္ကဋ္ဌအဖြစ်ဆောင်ရွက်လိုခြင်းမရှိကြလျှင်၊ တက်ရောက်လာကြသည့်ဒါရိုက်တာများကအစည်းအဝေးဥက္ကဋ္ဌကိုရွေးချယ်နိုင်သည်။ဒါရိုက်တာများကထိုသို့ရွေးချယ်ပေးခြင်းမရှိလျှင်တက်ရောက်လာကြသည့် ကုမ္ပဏီတွင်ပါဝင်သူများက ဒါရိုက်တာတစ်ဦးကိုဥက္ကဋ္ဌအဖြစ်ရွေးချယ်ရမည်။အကယ်၍ဒါရိုက်တာတစ်ဦးမျှတက်ရောက်လာခြင်းမရှိလျှင်သို့မဟုတ်ဒါရိုက်တာတစ်ဦးတစ်ယောက်ကမျှဥက္ကဋ္ဌအဖြစ်ဆောင်ရွက်လိုခြင်းမရှိလျှင် ကုမ္ပဏီတွင်ပါဝင်သူများသည်ကုမ္ပဏီတွင်ပါဝင်သူများထဲမှတစ်ဦးကို (သို့မဟုတ်၎င်းတို့၏ ကိုယ်စားလှယ်၊ တရားဝင်လွှဲအပ်ထားသောရှေ့နေ သို့မဟုတ် ကုမ္ပဏီကိုယ်စားပြုပုဂ္ဂိုလ်) ကိုဥက္ကဋ္ဌအဖြစ်ရွေးချယ်ရမည်။

၆၈။ အထွေထွေအစည်းအဝေး၏ဥက္ကဋ္ဌသည် အကျိုးစီးပွားဆိုင်ရာ ပဋိပက္ခဖြစ်ပွားခြင်း သို့မဟုတ် ၎င်းတို့၏ ဆင်ခြင်တုံတရားအရ အစည်းအဝေး၏အစီအစဉ်တစ်ခု သို့မဟုတ် တစ်ခုထက်ပိုသောအစီအစဉ်များတွင် ဆောင်ရွက်ရန် သို့မဟုတ် ဆုံးဖြတ်ချက်ချမှတ်ရန် တစ်စုံတစ်ဦးကို (ဒါရိုက်တာဖြစ်ရန်မလို)ကို ဥက္ကဋ္ဌအဖြစ်ခန့်အပ်နိုင်သည်။ ထိုသို့ဥက္ကဋ္ဌ တာဝန်ခန့်အပ်ခြင်းခံရသူသည် ဤဖွဲ့စည်းပုံအခြေခံစည်းမျဉ်းနှင့် ဥပဒေတို့အရ အပ်နှင်းသော ဥက္ကဋ္ဌ၏ အခွင့်အာဏာနှင့် ဆင်ခြင်တုံတရားကို ကျင့်သုံးနိုင်သည်။ ထိုသို့ခန့်အပ်သည့် တာဝန်ပြီးဆုံးပြီးနောက်တွင် ၎င်းသည် ဥက္ကဋ္ဌနေရာတွင် ပြန်လည်၍ ဆက်လက်ဆောင်ရွက်ရသည်။

ဥက္ကဋ္ဌ၏အခွင့်အာဏာများ

၆၉။ အထွေထွေအစည်းအဝေး ဥက္ကဋ္ဌသည် အစည်းအဝေး၏ လုပ်ထုံးလုပ်နည်းများနှင့် ယေဘုယျပြုမူဆောင်ရွက်ရန် ကိစ္စများကို တာဝန်ယူရသည်။ ယေဘုယျ ပြုမူဆောင်ရွက်ချက်များနှင့် လုပ်ထုံးလုပ်နည်းတို့နှင့် စပ်လျဉ်း၍ ဥက္ကဋ္ဌ၏ ဆုံးဖြတ်ချက်သည် အပြီးသတ်နှင့် အတည်ဖြစ်စေရမည်။

၇၀။ မည်သည့် အထွေထွေအစည်းအဝေးတွင်မဆို အစည်းအဝေးဥက္ကဋ္ဌက ဆုံးဖြတ်ချက်ကို ချမှတ်ပြီး သို့မဟုတ် သတ်မှတ်မဲ အများစုဖြင့် ချမှတ်ပြီး သို့မဟုတ် မချမှတ်သေးကြောင်း ကြေညာပြီး ထိုသို့ အကျိုးသက်ရောက်မှုကို အစည်းအဝေးမှတ်တမ်းတွင် မှတ်တမ်းတင်လျှင် ထိုကြေညာချက်သည် အဆိုပါဆုံးဖြတ်ချက်ကို ထောက်ခံသည့်မဲ သို့မဟုတ် ကန့်ကွက်သည့်မဲ အရေအတွက်နှင့် အချိုးအစားတို့ကို မှတ်တမ်းတင်ခြင်း ရှိသည်ဖြစ်စေ မရှိသည်ဖြစ်စေ ထိုကြေငြာချက်သည် အပြီးသတ်သက် သေခံချက်ဖြစ်သည်။

အထွေထွေအစည်းအဝေးကိုရွှေ့ဆိုင်းခြင်း

၇၁။ အပိုဒ်-၇၂ကို အထောက်အထားပြုလိုက်နာလျက် အထွေထွေအစည်းအဝေးဥက္ကဋ္ဌသည် အစည်းအဝေးကို အခြားရက်၊ အချိန်နှင့်နေရာသို့ ရွှေ့ဆိုင်းနိုင်ပြီး ရွှေ့ဆိုင်းသည့် အစည်းအဝေးတွင် ပထမအစည်းအဝေးမှ ဆောင်ရွက်ရန် ကျန်ရှိသည်များကို သာဆက်လက်ဆောင်ရွက်နိုင်သည်။

၇၂။ ဒါရိုက်တာတစ်ဦးကလည်းကောင်း၊ ဥပဒေနှင့်အညီ ကုမ္ပဏီတွင် ပါဝင်သူများကလည်းကောင်း၊ ကုမ္ပဏီတွင် ပါဝင်သူများ၏ တောင်းဆိုချက်အရ ဒါရိုက်တာများကလည်းကောင်း၊ တရားရုံးကလည်းကောင်း ခေါ်ယူကျင်းပသည့် အထွေထွေအစည်းအဝေးဖြစ်ပါက ထိုအစည်းအဝေးများကို ခေါ်ယူကျင်းပသည့် သို့မဟုတ် တောင်းဆိုသည့် ပုဂ္ဂိုလ်များ၏ သဘောတူညီချက်မရှိဘဲ အထွေထွေအစည်းအဝေး ဥက္ကဋ္ဌသည် အပိုဒ်-၇၁အရ ရွှေ့ဆိုင်းခွင့်မရှိပါ။

အထွေထွေအစည်းအဝေးရွှေ့ဆိုင်းကြောင်းအကြောင်းကြားခြင်း

၇၃။ အထွေထွေအစည်းအဝေးတစ်ခုကိုရက်ပေါင်း (၂၈)ရက်ထက် ပို၍ ရွှေ့ဆိုင်းမည်ဆိုပါက ထိုသို့ ရွှေ့ဆိုင်းကြောင်း အကြောင်းကြားစာကို ကုမ္ပဏီတွင် ပါဝင်သူအားလုံးနှင့် ဤဖွဲ့စည်းပုံအခြေခံစည်းမျဉ်း သို့မဟုတ် ဥပဒေအရ အကြောင်းကြားစာ ရထိုက်ခွင့်ရှိသည့် အခြားသက်ဆိုင်သူများ အားလုံးထံ မူလအစည်းအဝေးကျင်းပစဉ်ကကဲ့သို့ထုတ်ပေးရမည်။

အခန်း (၁၃)

မဲပေးခြင်း

မဲအများစုဖြင့်ချမှတ်သည့်ဆုံးဖြတ်ချက်

၇၄။ ဤဖွဲ့စည်းပုံအခြေခံစည်းမျဉ်း သို့မဟုတ် ဥပဒေအရ အခြားသတ်မှတ်မဲ အရေအတွက် ထောက်ခံမှုဖြင့် ဆုံးဖြတ်ရန် လိုသည့် ကိစ္စရပ်မှအပ အထွေထွေအစည်းအဝေးတွင် အဆိုပြု ဆုံးဖြတ်ချက်များ အားလုံးကို သာမန်မဲ အများစု ထောက်ခံမဲဖြင့် ဆုံးဖြတ်ရမည်။

ဥက္ကဋ္ဌ၏အဆုံးအဖြတ်မဲ

၇၅။ အထွေထွေအစည်းအဝေးတွင် ဆုံးဖြတ်ချက်အတွက် လက်ပြမဲပေးခြင်းဖြစ်စေ၊ မဲခွဲဆုံးဖြတ်ခြင်းဖြစ်စေ မဲပေးရန်ရှိပြီး နှစ်ဖက်မဲအရေအတွက် တူညီနေပါက အစည်းအဝေးဥက္ကဋ္ဌသည် ကုမ္ပဏီတွင် ပါဝင်သူကိုယ်စားလှယ်၊ တရားဝင် လွှဲအပ်ထားသော ရှေ့နေနှင့် ကုမ္ပဏီကိုယ်စားပြု ပုဂ္ဂိုလ်အဖြစ် ရရှိထားသော မဲများအပြင် အဆုံးအဖြတ်မဲကိုလည်း ပေးနိုင်သည်။

မဲပေးသည့်နည်းလမ်း

၇၆။ အထွေထွေအစည်းအဝေးတွင် အဆိုပြုဆုံးဖြတ်ချက်တိုင်းကို လက်ပြမဲပေးခြင်းမပြုမီ သို့မဟုတ် မဲရလာဒ်ကို ကြေညာခြင်းမပြုမီ ဥပဒေတွင် ပြဋ္ဌာန်းထားသည့်အတိုင်း မဲခွဲဆုံးဖြတ်ခြင်း ပြုလုပ်ရန် တောင်းဆိုခြင်း မပြုလျှင် လက်ပြမဲပေးခြင်းဖြင့် ဆုံးဖြတ်နိုင်သည်။

မဲခွဲဆုံးဖြတ်ခြင်း ကိုတောင်းဆိုခြင်း

၇၇။ အထွေထွေအစည်းအဝေးတွင် ဆုံးဖြတ်ချက်တစ်ခုကို မဲခွဲဆုံးဖြတ်ခြင်းဖြင့် အဆုံးအဖြတ်ခံရန် အောက်တွင် ဖော်ပြထားသူများက တောင်းဆိုနိုင်သည်-

(က) အထွေထွေအစည်းအဝေးတွင် တက်ရောက်ပြီး ဆုံးဖြတ်ချက်အတွက် မဲပေးပိုင်ခွင့်ရှိသော ကုမ္ပဏီတွင် ပါဝင်သူအနည်းဆုံး၅ဦး။

(ခ) အထွေထွေအစည်းအဝေးတွင် တက်ရောက်သော ကုမ္ပဏီတွင် ပါဝင်သူတစ်ဦး သို့မဟုတ် တစ်ဦးထက်ပိုသော ပါဝင်သူများဖြစ်ရမည့်အပြင် ဆုံးဖြတ်ချက်ကို မဲခွဲဆုံးဖြတ်ခြင်း ပြုရာတွင် မဲ၁၀% ထက်မနည်းသော အစုရှယ်ယာများကို ပိုင်ဆိုင်ထားသူများ။

(ဂ) အစည်းအဝေး ဥက္ကဋ္ဌ။

မဲခွဲဆုံးဖြတ်ခြင်း

၇၈။ အထွေထွေအစည်းအဝေးတွင် ဆုံးဖြတ်ချက် ချမှတ်ခြင်းနှင့်စပ်လျဉ်း၍ မဲခွဲဆုံးဖြတ်ခြင်းပြုရန် တောင်းဆို လာပါက အစည်းအဝေး ဥက္ကဋ္ဌသည်-

(က) မဲခွဲဆုံးဖြတ်ခြင်း ဆောင်ရွက်ရန်အပြုအမူ၊နေ့ရက်နှင့်အချိန်တို့ကို ဆုံးဖြတ်သတ်မှတ် ပေးမည်။

(ခ) အစုရှယ်ယာပိုင်ဆိုင်မှုအရ ပေးခွင့်ရှိသည့် ဆုံးဖြတ်ချက်ကို ထောက်ခံမဲနှင့် ကန့်ကွက်မဲ အရေအတွက်တို့ကို သေချာမှန်ကန်အောင် စစ်ဆေးရေတွက်ရမည်။

(ဂ) မဲကိုခွင့်ပြုရန် သို့မဟုတ် ငြင်းပယ်ရန် အငြင်းပွားရာတွင် အဆုံးအဖြတ်ပြုရမည်၊ ထိုသို့ ဆုံးဖြတ်ရာတွင် သဘောရိုးနှင့် ဆောင်ရွက်ပါက ဆုံးဖြတ်ချက်သည် အပြီးသတ်နှင့် အတည်ဖြစ်သည်။

ဆန္ဒမဲများ

၇၉။ ဤဖွဲ့စည်းပုံအခြေခံစည်းမျဉ်းနှင့် အစုရှယ်ယာအမျိုးအစား၏ မဲပေးခြင်းနှင့် စပ်လျဉ်းသည့် အခွင့်အရေးများနှင့် ကန့်သတ်ချက်များကို အထောက်အထားပြုလိုက်နာလျက်-

(က) လက်ပြမဲပေးခြင်းပြုရာတွင် အစည်းအဝေးတက်ရောက်သော ကုမ္ပဏီတွင် ပါဝင်သူတိုင်း ဆန္ဒမဲတစ်မဲကျစီဖြစ်ပြီး။

(ခ) မဲခွဲဆုံးဖြတ်ခြင်း ပြုရာတွင်အစည်းအဝေးတက်ရောက်သော ကုမ္ပဏီတွင် ပါဝင်သူတိုင်းသည် -

(၁) အဆိုပါကုမ္ပဏီတွင် ပါဝင်သူပိုင်ဆိုင်သည့် အပြည့်အဝပေးချေပြီးသော အစုရှယ်ယာ တစ်ခုအတွက် ဆန္ဒမဲတစ်မဲကျစီဖြစ်ပြီး။

(၂) တစ်စိတ်တစ်ပိုင်းပေးချေပြီး အစုရှယ်ယာအတွက် ပေးချေထားသည့်ပမာဏနှင့် မပေးချေရသေးသည့်ပမာဏ စုစုပေါင်းတွင် ပေးချေပြီးသည့် အချိုးအစားနှင့် ညီမျှသည့် အပိုင်းသည် ဆန္ဒမဲ၏တစ်စိတ်တစ်ပိုင်းဖြစ်သည်။

၈၀။ မဲခွဲဆုံးဖြတ်ခြင်း ပြုရာတွင်တစ်မဲထက် ပိုပေးခွင့်ရှိသူသည် ၎င်းဆန္ဒအရမဲအားလုံးပေးရန်မလိုပါ။

ကိုယ်စားလှယ်ကမဲပေးခြင်း

၈၁။ အထွေထွေအစည်းအဝေးတွင် အဆိုပြုဆုံးဖြတ်ချက်အတွက် မဲပေးခွင့်ရှိသော ကုမ္ပဏီတွင် ပါဝင်သူသည် ကိုယ်စားလှယ်ခန့်အပ်နိုင်ပြီး ယင်းကိုယ်စားလှယ်သည် ကုမ္ပဏီတွင်ပါဝင်သူကိုယ်စား အစည်းအဝေး တက်ရောက်နိုင်ပြီး ကိုယ်စားမဲလည်းပေးခွင့်ရှိသည်။

၈၂။ ကိုယ်စားလှယ်သည် မဲခွဲဆုံးဖြတ်ခြင်း ပြုလုပ်ရန် တောင်းဆိုနိုင်သည် သို့မဟုတ် တောင်းဆိုခြင်းတွင် ပါဝင်နိုင်သည်။

၈၃။ အထွေထွေအစည်းအဝေးတွင် တက်ရောက်လျက်ရှိသော ကုမ္ပဏီတွင်ပါဝင်သူသည် ၎င်းအတွက် အစည်းအဝေးတက်ရောက်ရန်နှင့် မဲပေးရန် ကိုယ်စားလှယ်ခန့်ထားပါက ယင်းကိုယ်စားလှယ်သည်-

(က) ကုမ္ပဏီတွင် ပါဝင်သူကိုယ်တိုင် တက်ရောက်နေစဉ် တစ်လျှောက်လုံး ၎င်း၏ ပြောဆိုခွင့်ကို ရွှေ့ဆိုင်းထားရမည်။

(ခ) ကုမ္ပဏီတွင် ပါဝင်သူအတွက မဲပေးရန်ကိုမူ ကုမ္ပဏီတွင်ပါဝင်သူရှိနေသည့်အတွက် ရွှေ့ဆိုင်းရန်မလိုဘဲ ကုမ္ပဏီတွင်ပါဝင်သူက ကိုယ်တိုင်ကိုယ်ကျ မဲပေးသည့်အခါမှသာ ယင်းကိုယ်စားလှယ်၏ မဲပေးခွင့်ကို ရုပ်သိမ်းသည်။

၈၄။ ဥပဒေကို အထောက်အထားပြုလိုက်နာလျက် ကိုယ်စားလှယ်သည် အထွေထွေအစည်းအဝေး၌ အဆိုပြု ဆုံးဖြတ်ချက်ကိုမဲပေးခြင်း၊ မဲမပေးဘဲနေခြင်းကို ၎င်းဆန္ဒအတိုင်း ရွေးချယ်ဆောင်ရွက် နိုင်သည်။ သို့သော် ၎င်းအားကိုယ်စားလှယ်အဖြစ် ခန့်အပ်သည့်စာချုပ်တွင် ကိုယ်စားလှယ်သည် မဲပေးရမည် သို့မဟုတ် မဲမပေးဘဲ နေရမည်ဟု ညွှန်ကြားထားပါက ညွှန်ကြားသည့်အတိုင်းပြုလုပ်ရမည်။

ကိုယ်စားလှယ်၊တရားဝင်လွှဲအပ်ထားသောရှေ့နေသို့မဟုတ်
ကုမ္ပဏီကိုယ်စားပြုပုဂ္ဂိုလ်တို့ကမဲပေးခြင်း၏တရားဝင်မှု

၈၅။ ကုမ္ပဏီသည် အထွေထွေအစည်းအဝေးမစမီ သို့မဟုတ် ပြန်လည်ကျင်းပချိန်တွင် စာဖြင့်ရေးသား အကြောင်းကြားစာ မရရှိပါက ကိုယ်စားလှယ်၊ တရားလွှဲအပ်ထားသောရှေ့နေ၊ ကုမ္ပဏီကိုယ်စားပြု ပုဂ္ဂိုလ်တို့က မဲပေးထားကြရာ မဲမပေးမီတွင်ပင်ကုမ္ပဏီတွင်ပါဝင်သူသည် အောက်ပါအတိုင်း ဖြစ်ပွားသည့်တိုင် ယင်းတို့ပေးသည့် မဲသည်တရားဝင်သည် -

(က) သေဆုံးခဲ့ခြင်း။

(ခ) စိတ်ပေါ့သွပ်သွားခဲ့ခြင်း။

(ဂ) ခန့်အပ်ထားမှု သို့ အခွင့်အာဏာပေးအပ်မှုကိုပြန်လည်ရုပ်သိမ်းခဲ့ခြင်း။

(ဃ) တတိယပုဂ္ဂိုလ်၏ ခန့်အပ်မှုအခွင့်အာဏာကိုပြန်လည်ရုပ်သိမ်းခဲ့ခြင်း။

(င) ခန့်အပ်ခြင်း သို့မဟုတ် အခွင့်အာဏာ အပ်နှင်းခြင်းနှင့် စပ်လျဉ်းသည့် အစုရှယ်ယာများကို လွှဲပြောင်းခဲ့ခြင်း။

**ပေးချေခြင်းမပြုရသေးသည့်အစုရှယ်ယာများအတွက်မဲပေးခြင်း**

၈၆။ ကုမ္ပဏီတွင်ပါဝင်သူသည် အစည်းအဝေးကျင်းပချိန်တွင် ကုမ္ပဏီသို့ ၎င်းရယူထားသည့် အစုရှယ်ယာအတွက် ပေးချေရန် ကာလစေ့ရောက်နေပြီး ပေးချေခြင်းမပြုရသေးပါက ထိုအစုရှယ်ယာအတွက် အထွေထွေအစည်းဝေးတွင် မဲမပေးနိုင်ပါ။ သို့သော် ၎င်းပိုင်ဆိုင်သော အပိုဒ်-၇၉(ခ)(၂) အရ တစ်စိတ်တစ်ပိုင်း ပေးချေပြီး အစုရှယ်ယာများအပါအဝင် အခြားအစုရှယ်ယာများအတွက် မဲပေးခွင့်ကိုမူကန့်သတ်ခြင်းမရှိပါ။

**အစုရှယ်ယာပူးတွဲပိုင်ဆိုင်သူများကမဲပေးခြင်း**

၈၇။ အပိုဒ်-၈၈ကိုအထောက်အထားပြုလိုက်နာလျက် အစုရှယ်ယာပူးတွဲပိုင်ဆိုင်သော ပူးတွဲအစုရှယ်ယာရှင် တစ်ဦးသည် အထွေထွေအစည်းအဝေးတွင် အဆိုပြုဆုံးဖြတ်ချက်အပေါ် ပူးတွဲအစုရှင်ဖြစ်သည့် အားလျော်စွာအစု ရှယ်ယာများအားလုံးအတွက်မဲပေးနိုင်သည်။

၈၈။ အထွေထွေအစည်းအဝေးတွင် ပူးတွဲအစုရှယ်ယာရှင်တစ်ဦးထက်ပို၍ အစည်းအဝေးတက်ရောက်ပါက မဲပေးရာတွင် မှတ်ပုံတင်စာရင်း၌ ဦးစွာအမည်စာရင်းပါဝင်သူ ပူးတွဲအစုရှယ်ယာရှင်၏ မဲကိုသာ ထည့်သွင်းတွက်ရမည်။

**တစ်ဆင့်ခံလွှဲပြောင်းရရှိသူမှမဲပေးခြင်း**

၈၉။ အစုရှယ်ယာတစ်ဆင့်ခံလွှဲပြောင်းရရှိခြင်းကြောင့် အစုရှယ်ယာပိုင်ဆိုင်ခွင့်ရှိသူသည် ဥပဒေအတိုင်း လိုက်နာကျင့်သုံး၍ အထွေထွေအစည်းအဝေး (သို့မဟုတ်ရွှေ့ဆိုင်းသည့်အစည်းအဝေး) မစတင်မီ အနည်းဆုံး ၄၈နာရီ ကြိုတင်၍ ဒါရိုက်တာများက တောင်းဆိုသည့် သက်သေခံချက်များကို ကုမ္ပဏီထံပေးပို့ပါက ထိုသူသည် အစုရှယ်ယာ (အစုရှယ်ယာအလိုက်မဲပေးခြင်းအပါအဝင်) နှင့်စပ်လျဉ်း၍ အစည်းအဝေးတွင် အစုရှယ်ယာရှင်အဖြစ် မှတ်ပုံတင်စာရင်းသွင်းပြီးသူကဲ့သို့ အခွင့်အရေးများကို ကျင့်သုံးခွင့်ရှိသည်။

ရပိုင်ခွင့်နှင့်မဲပေးခြင်းဆိုင်ရာဆုံးဖြတ်ချက်

၉၀။ လူတစ်ဦးသည် မဲပေးရန်ရည်ရွယ်သူကို မဲပေးပိုင်ခွင့်ရှိမရှိ သို့မဟုတ် အစည်းအဝေးသို့ တက်ရောက်ပြီး မဲပေးပိုင်ခွင့်ရှိသူ (မဲပေးပိုင်ခွင့်ရှိသူဖြစ်ကြောင်းတောင်းဆိုသူ) တစ်ဦးအား ခွင့်ပြုသင့်သည် သို့မဟုတ် ငြင်းပယ်သင့်သည် ဆိုသည့်အပေါ်တွင် မဲပေးရန် ရည်ရွယ်သူက မဲပေးရန် ဆန္ဒရသည့် သို့မဟုတ် ကန့်ကွက်သည့်မဲကို ပေးရသည့်အစည်းအဝေး၌ သာကန့်ကွက်နိုင်သည်။ ထိုသို့ကန့်ကွက်ခြင်းကို အထွေထွေအစည်းအဝေး၏ ဥက္ကဋ္ဌက ဆုံးဖြတ်ရမည်ဖြစ်ပြီး ယင်း၏ဆုံးဖြတ်ချက်သည် အပြီးသတ်နှင့် အတည်ဖြစ်စေရမည်။ ခွင့်ပြုခဲ့သည့်မဲတစ်မဲသည် ဥပဒေနှင့်ညီညွတ်ပြီး ရည်ရွယ်ချက်အားလုံးအတွက် အကျိုးသက်ရောက် စေရမည်။

အခန်း (၁၄)

## အစည်းအဝေးကျင်းပခြင်းမပြုဘဲချမှတ်သည့်ဆုံးဖြတ်ချက်များ

### ကုမ္ပဏီတွင်ပါဝင်သူတစ်ဦးသာရှိခဲ့လျှင်

၉၁။ ကုမ္ပဏီတွင်ပါဝင်သူတစ်ဦးသာရှိပါက ကုမ္ပဏီသည် အထွေထွေအစည်းအဝေးကျင်းပခြင်းမရှိဘဲ အဆိုပါကုမ္ပဏီတွင်ပါဝင်သူ (သို့မဟုတ်၎င်း၏ တရားဝင်လွှဲအပ်ထားသောရှေ့နေ၊ ကုမ္ပဏီကိုယ်စားပြုပုဂ္ဂိုလ်) တို့သည် ဆုံးဖြတ်ချက်ကို မှတ်တမ်းတင်ကာ မှတ်တမ်းတွင် လက်မှတ်ရေးထိုးပြီး ဆုံးဖြတ်ချက်ကို ထုတ်ပြန်နိုင်သည်။

### ကုမ္ပဏီတွင်ပါဝင်သူတစ်ဦးထက်ပိုရှိခဲ့လျှင်

၉၂။ ကုမ္ပဏီသည် အများနှင့်မသက်ဆိုင်သော ကုမ္ပဏီတစ်ခုဖြစ်ပြီး ကုမ္ပဏီတွင်ပါဝင်သူတစ်ဦးထက် ပိုရှိပါက ဥပဒေအရစာရင်းစစ်ကိုဖယ်ရှားသည့် ဆုံးဖြတ်ချက်မှအပ အထွေထွေအစည်းအဝေး ကျင်းပခြင်း မရှိဘဲ ဆုံးဖြတ်ချက်ကို မဲပေးခွင့်ရှိသောကုမ္ပဏီတွင် ပါဝင်သူအားလုံးက (သို့မဟုတ် ၎င်းတို့၏ တရားဝင် လွှဲအပ်ထားသော ရှေ့နေများ၊ ကုမ္ပဏီကိုယ်စားပြုပုဂ္ဂိုလ်များ) စာရွက်စာတမ်းအဖြစ် ပြုစုထားသော ဆုံးဖြတ်ချက်ကို သဘောတူကြောင်း ထုတ်ဖော်ချက်ပါစာရွက်စာတမ်းကို လက်မှတ်ရေးထိုး၍ ထုတ်ပြန် နိုင်သည်။ သတင်းအချက်အလက်များ ပူးတွဲထားသည့် ယင်းစာရွက်စာတမ်းမိတ္တူများကို ကုမ္ပဏီတွင် ပါဝင်သူအသီးသီးသို့ ဖြန့်ဝေရမည်။ စာရွက်စာတမ်းတွင် ကုမ္ပဏီတွင်ပါဝင်သူအားလုံးက လက်မှတ်ထိုးပြီး နောက်ဆုံးဖြတ်ချက်ကိုထုတ်ပြန်နိုင်သည်။

အခန်း (၁၅)

## ကိုယ်စားလှယ်များ

### ကိုယ်စားလှယ်ခန့်အပ်သည့်စာချုပ်

၉၃။ ကိုယ်စားလှယ်ခန့်အပ်သည့် စာချုပ်ကိုစာဖြင့်ရေးသား၍ ခန့်အပ်သူများက လက်မှတ်ရေးထိုးရမည် ဖြစ်ပြီး ကုမ္ပဏီတွင်ပါဝင်သူများ၏ အမည်နှင့်နေရပ်လိပ်စာ၊ ကုမ္ပဏီအမည်၊ ကိုယ်စားလှယ်၏အမည်၊ ကိုယ်စားလှယ်ကို အသုံးပြုမည့်အစည်းအဝေးများ (အစည်းအဝေးအားလုံးဖြစ်နိုင်သည်) စသည် တို့ပါဝင်ရမည်။

၉၄။ ကိုယ်စားလှယ်ခန့်အပ်ခြင်းသည်အမြဲတမ်းတည်ရှိနိုင်သည်။

### ကိုယ်စားလှယ်ခန့်အပ်ခြင်းကိုကုမ္ပဏီသို့တင်ပြခြင်း

၉၅။ လက်မှတ်ရေးထိုးထားသော ကိုယ်စားလှယ်ခန့်အပ်သည့် စာချုပ်နှင့်ရှေ့နေကိုယ်စားလှယ်စာ (ရှိလျှင်) ကိုအထွေထွေအစည်းအဝေးမကျင်းပမီအနည်းဆုံး (၄၈)နာရီကြိုတင်၍ ကုမ္ပဏီက လက်ခံရရှိပြီး ဖြစ်ရမည့်အပြင် အောက်ပါအတိုင်းပေးပို့နိုင်သည်-

(က) ရုံးသို့ပေးပို့၍လည်းကောင်း။

(ခ) ရုံးသို့ဖက်စ်ဖြင့်လည်းကောင်း၊ အစည်းအဝေး၏ အကြောင်းကြားစာတွင် ဤကိစ္စလို့ငှာ သတ်မှတ်ဖော်ပြထားသော ဖက်စ်နံပါတ်သို့ပေးပို့၍လည်းကောင်း။

(ဂ) အစည်းအဝေး၏ အကြောင်းကြားစာတွင် ဤကိစ္စလို့ငှာ သတ်မှတ်ဖော်ပြထားသော အီလက်ထရောနစ် လိပ်စာသို့အီးလ်မေးလ်ဖြင့်လည်းကောင်း၊ အခြားအီလက်ထရောနစ် နည်းလမ်းဖြင့် ပေးပို့၍လည်းကောင်း။

(ဃ) အစည်းအဝေး၏ အကြောင်းကြားစာတွင် သတ်မှတ်ဖော်ပြထားသော မည်သည့် နည်းလမ်းဖြင့်မဆို လည်းကောင်း၊ ကုမ္ပဏီမှအချိန်နှင့် တပြေးညီ အသိပေးထားသည့် သို့မဟုတ် ဥပဒေအရခွင့်ပြုနိုင်သည့် နည်းဖြင့်လည်းကောင်း။

**ကိုယ်စားလှယ်၏ တရားဝင်မှု**

**၉၆။ ဥပဒေကိုအထောက်အထား ပြုလိုက်နာလျက် ကိုယ်စားလှယ်ခန့်အပ်သည့် စာချုပ်၏ တရားဝင် နိုင်မှု သို့မဟုတ် ရှေ့နေကိုယ်စားလှယ်စာ (ရှိလျှင်) ၏ နိုင်မာမှုနှင့် စပ်လျဉ်း၍ အငြင်းပွားမှု အစည်းအဝေး ဥက္ကဋ္ဌ၏ ဆုံးဖြတ်ချက်၊ ၎င်းမရှိကဒါရိုက်တာများ၏ ဆုံးဖြတ်ချက်သည်အပြီးသတ်နှင့် အတည်ဖြစ်သည်။**

**အခန်း (၁၆)**

**ဒါရိုက်တာများ**

**ဒါရိုက်တာများ၏အရေအတွက်**

၉၇။ ကုမ္ပဏီသည်အများနှင့် မသက်ဆိုင်သောကုမ္ပဏီဖြစ်က ဒါရိုက်တာတစ်ယောက်ထက် မနည်း ရှိရမည် ဖြစ်ပြီး ကုမ္ပဏီသည်အများနှင့်သက်ဆိုင်သောကုမ္ပဏီဖြစ်ကဒါရိုက်တာ၃ယောက်ထက်မနည်းရှိရမည်။

**ဒါရိုက်တာများသည်လူပုဂ္ဂိုလ်ဖြစ်ရန်**

၉၈။ ဒါရိုက်တာသည်လူပုဂ္ဂိုလ်ဖြစ်ရမည်။

**ဒါရိုက်တာများ၏ ရာထူးသက်တမ်း**

၉၉။ ဥပဒေကိုလိုက်နာ၍ ဒါရိုက်တာတစ်ဦးချင်းစီသည် ဤဖွဲ့စည်းပုံအခြေခံစည်းမျဉ်းအရ ၎င်းတို့အား ထုတ်ပယ်ခြင်းမပြုမချင်း ဒါရိုက်တာရာထူးတွင် တည်ရှိသည် သို့မဟုတ် ဥပဒေအရ ဒါရိုက်တာအဖြစ်မှ အလိုအလျောက် ရပ်စဲသည်အထိ ဒါရိုက်တာရာထူးတွင်ဆက်လက်တည်ရှိသည်။

**အစုရှယ်ယာပိုင်ဆိုင်သူဖြစ်ရန်မလိုအပ်ခြင်း**

၁၀၀။ ဒါရိုက်တာသည်အစုရှယ်ယာပိုင်ဆိုင်ရန်မလိုအပ်ပါ။

**ဒါရိုက်တာကိုခန့်ထားခြင်းနှင့်ထုတ်ပယ်ခြင်း**

၁၀၁။ ဒါရိုက်တာများကို သာမန်ဆုံးဖြတ်ချက်ဖြင့်သော်လည်းကောင်း၊ ကုမ္ပဏီတွင်ပါဝင်သူအားလုံးက သို့မဟုတ် ၎င်းတို့ကိုယ်စား လက်မှတ်ရေးထိုးက ကုမ္ပဏီသို့ပေးပို့သည့် အကြောင်းကြားစာအရ လည်းကောင်း ခန့်အပ်ခြင်း သို့မဟုတ် ထုတ်ပယ်ခြင်းပြုနိုင်သည်။

ဒါရိုက်တာများကလစ်လပ်နေရာများကိုဖြည့်ခြင်းနှင့်နောက်ထပ်ဒါရိုက်တာများခန့်အပ်နိုင်ခြင်း

၁၀၂။ ဒါရိုက်တာများသည် လစ်လပ်နေရာတွင်ဖြည့်ရန် သို့မဟုတ် ဘုတ်အဖွဲ့တွင် နောက်ထပ် ခန့်ထားရန်အတွက် မည်သူ့ကိုမဆို မည်သည့်အချိန်၌ မဆိုဒါရိုက်တာအဖြစ် ခန့်အပ်ပိုင်ခွင့်ရှိသည်။ ခြွင်းချက် အနေဖြင့် ဤဖွဲ့စည်းပုံအခြေခံစည်းမျဉ်းအရ သတ်မှတ်ထားသည့် (ရှိလျှင်) အများဆုံး ဦးရေထက် ကျော်လွန် ခန့်အပ်ခွင့်မရှိပါ။

အလှည့်ကျဒါရိုက်တာ

၁၀၃။ ဥပဒေကို အထောက်အထားပြုလိုက်နာလျက် ဒါရိုက်တာတစ်ဦးချင်းစီသည် အခြားဒါရိုက်တာများ၏ အတည်ပြုချက်ဖြင့်လူတစ်ဦး (ကုမ္ပဏီတွင်ပါဝင်သူထဲမှဖြစ်စေ၊ ကုမ္ပဏီတွင်ပါဝင်သူ မဟုတ်သူထဲမှဖြစ်စေ) ကိုငှင်း၏ နေရာတွင် အလှည့်ကျ ဒါရိုက်တာအဖြစ် ခန့်အပ်နိုင်ပြီး၊ ထိုဒါရိုက်တာက သတ်မှတ်ဆုံးဖြတ်သည့် ကာလအပိုင်းအခြားအတွက်လည်း ခန့်အပ်နိုင်သည်။ ခန့်အပ်ခြင်းကိုခန့်အပ်သည့် ဒါရိုက်တာက လက်မှတ်ရေးထိုးပြီး ခန့်အပ်စာမိတ္တူကို ကုမ္ပဏီရုံးခန်းသို့လည်းကောင်း၊ ဒါရိုက်တာများ အစည်းအဝေးသို့ လည်းကောင်း ပေးပို့ရမည်။

၁၀၄။ မည်သည့်အလှည့်ကျဒါရိုက်တာမဆို-

(က) ရာထူးမှဖယ်ရှားခြင်း သို့မဟုတ် ခေတ္တရပ်နားခြင်းကို ၎င်းအားခန့်အပ်သည့် ဒါရိုက်တာ (ခန့်ထားသူ)က ကုမ္ပဏီသို့စာဖြင့်ရေးသားသည့် အကြောင်းကြားစာ ပေးပို့ကာ ပြုလုပ်နိုင်သည်။

(ခ) အကြောင်းကြားစာလက်ခံပိုင်ခွင့်၊ ဒါရိုက်တာအစည်းအဝေးသို့ (၎င်းအားခန့်အပ်သူမရှိက) တက်ရောက်ပိုင်ခွင့်ရှိပြီး ဒါရိုက်တာများအစည်းအဝေးတွင် အစည်းအဝေးထမြောက်ရန် အနည်းဆုံးလိုအပ်သည့်ဦးရေတွင် ထည့်သွင်းရေတွက်ခံနိုင်သည်။

(ဂ) ၎င်းတက်ရောက်သည့် ဒါရိုက်တာများအစည်းအဝေးတွင် ဆုံးဖြတ်ချက်အားလုံးအတွက် မဲပေးပိုင်ခွင့်ရှိသည့် ၎င်းအားခန့်အပ်သူဒါရိုက်တာမဲပေးခွင့်ရှိသကဲ့သို့ အလှည့်ကျဒါရိုက်တာလည်း ကိုယ်ပိုင်အခွင့်အရေးအရ မဲပေးနိုင်သည်။ အလှည့်ကျဒါရိုက်တာသည် ကိုယ်တိုင်ဒါရိုက်တာတစ်ဦးဖြစ်ပါက ၎င်းအားကိုယ်ပိုင်မဲပေးနိုင်သည့်အပြင် အလှည့်ကျဒါရိုက်တာအဖြစ် ကိုယ်ပိုင်မဲလည်းပေးနိုင်သည်။

(ဃ) မည်သည့်အစုရှယ်ယာမှပိုင်ဆိုင်ရန်မလိုပါ။

(င) ခန့်အပ်သည့် စည်းကမ်းချက်ကို အထောက်အထားပြု၍၊ ခန့်အပ်သူကျင့်သုံးခွင့်ရှိသော အခွင့်အာဏာများကို ခန့်အပ်သူမရှိပါက အလှည့်ကျဒါရိုက်တာအဖြစ် ကိုယ်ပိုင်ကျင့်သုံးခွင့်ရှိသည်။ ထိုအလှည့်ကျဒါရိုက်တာသည် အလှည့်ကျဒါရိုက်တာခန့်အပ်ပိုင်ခွင့်မရှိပါ။

(စ) ခန့်အပ်သူရာထူးမှဖယ်ရှားခံရသည့်အခါ သို့မဟုတ် ဒါရိုက်တာအဖြစ်မှ ရပ်စဲသည့်အခါ အလှည့်ကျဒါရိုက်တာလည်းရာထူးမှ အလိုအလျောက်ရပ်စဲသည်။

(ဆ) ဒါရိုက်တာအဖြစ်ဆောင်ရွက်စဉ်၎င်းသည်-

(၁) ကုမ္ပဏီ၏ အရာရှိတစ်ဦးဖြစ်ပြီးခန့်အပ်သူဒါရိုက်တာ၏ ကိုယ်စားလှယ်မဟုတ်ပါ။

(၂) အလှည့်ကျဒါရိုက်တာအဖြစ် ကိုယ်ပိုင်ဆောင်ရွက်ချက်နှင့် ပျက်ကွက်မှုများအတွက် ကုမ္ပဏီအပေါ်တွင် တာဝန်ရှိသည်။

(ဇ) ကုမ္ပဏီမှမည်သည့် အခကြေးငွေမှရခွင့်မရှိပါ။ ဒါရိုက်တာအစည်းအဝေးများ၊ ဒါရိုက်တာများ၏ ကော်မတီအစည်းအဝေးများ၊ အထွေထွေအစည်းအဝေးများ စသည့် အစည်းအဝေးများ တက်ခြင်း၊ ပြန်ခြင်းတို့အတွက်လည်းကောင်း ကုမ္ပဏီလုပ်ငန်းများနှင့် ဆက်စပ်၍လည်းကောင်းခရီးသွားခြင်း၊ ကုန်ကျစရိတ်များ၊အသုံးစရိတ်များအတွက် ရထိုက်ခွင့်ရှိပြီး ယင်းကိစ္စများအတွက် စိုက်ထုတ်ငွေပြန်ရခွင့်ရှိပါသည်။

(ဈ) ဒါရိုက်တာတစ်ဦးအတွက် ထက်ပိုပြီးအလှည့်ကျဒါရိုက်တာအဖြစ်လည်း ဆောင်ရွက်ခွင့်ရှိ သည်။

**ဒါရိုက်တာများ၏အခကြေးငွေ**

၁၀၅။ ဒါရိုက်တာများသည် ဒါရိုက်တာများအဖြစ် ဝန်ဆောင်မှုပေးခြင်းအတွက် အခကြေးငွေရ ထိုက်ခွင့်ရှိ သည်။

၁၀၆။ ဥပဒေနှင့်အညီ အထွေထွေအစည်းအဝေးများတွင် ကုမ္ပဏီ၏ တားမြစ်ကန့်သတ်ချက်များကို လိုက်နာလျက် ဒါရိုက်တာတစ်ဦးချင်းစီနှင့် သဘောတူစည်းကမ်းချက်ရှိသည့်အတိုင်း၊ ဘုတ်အဖွဲ့သည် အောက်ပါအတိုင်းဆုံးဖြတ်နိုင်သည်-

(က) ဒါရိုက်တာတစ်ဦးချင်းစီသို့ပေးရန်အခကြေးငွေပမာဏနှင့်ပေးရန်ပုံစံ သို့မဟုတ်။

(ခ) အခကြေးငွေကိုဒါရိုက်တာများသို့ စုပေါင်းပေးရန်နှင့်ပေးရန် ပုံစံကိုသတ်မှတ်ပြီး ဒါရိုက်တာများက ၎င်းတို့အားစုပေါင်းပေးသည့် အခကြေးငွေကို အချိုးအစားအလိုက် ၎င်းတို့ သဘောတူဆုံးဖြတ်သည့်အတိုင်း ခွဲဝေယူကြရန်ဖြစ်ပြီး ထိုသို့သဘောတူ သတ်မှတ်နိုင်ခြင်းမရှိက အညီအမျှခွဲဝေယူကြရန်ဖြစ်သည်။

**ဒါရိုက်တာများ၏အသုံးစရိတ်များ**

၁၀၇။ အခကြေးငွေအပြင်ဒါရိုက်တာများသည် ဒါရိုက်တာအစည်းအဝေးများ၊ ဒါရိုက်တာများ၏ ကော်မတီအစည်း အဝေးများ၊ အထွေထွေအစည်းအဝေးများ စသည့် အစည်းအဝေးများ တက်ရောက်ခြင်း၊ ပြန်ခြင်းတို့အတွက်လည်းကောင်း၊ ကုမ္ပဏီလုပ်ငန်းများနှင့် ဆက်စပ်၍လည်းကောင်း၊ ခရီးသွားခြင်း၊ ကုန်ကျစရိတ်များ၊ အသုံးစရိတ်များအတွက် ရထိုက်ခွင့်ရှိပြီး ယင်းကိစ္စများအတွက် စိုက်ထုတ်ငွေ ပြန်ရခွင့်ရှိပါသည်။

အခန်း (၁၇)

ဒါရိုက်တာခန့်အပ်ခြင်းပဋိညာဉ်စာချုပ်

ဒါရိုက်တာအဖြစ်ဆောက်ရွက်ခြင်းနှင့်ကုမ္ပဏီနှင့်စာချုပ်ချုပ်ဆိုခြင်းကိုကန့်သတ်ခြင်း

၁၀၈။ ဥပဒေကိုအထောက်အထားပြုလိုက်နာလျက်-

(က) ကုမ္ပဏီနှင့် အခြားသူများ၏ အကျိုးအလို့ငှာ ရာထူးနေရာတစ်ခုခုတွင် ထမ်းဆောင်နေသော ဒါရိုက်တာများသည် အရည်အချင်းပျက်ယွင်းခြင်းမရှိစေရ။

(ခ) ကုမ္ပဏီနှင့် သို့မဟုတ် အခြားသူများနှင့် စာချုပ်ချုပ်ဆို၍ဆ ောင်ရွက်ရာတွင် ဒါရိုက်တာ အရည်အချင်း ပျက်ယွင်းခြင်းမရှိစေရ။

(ဂ) ဤအခန်း- ၁၇ တွင် ရည်ညွှန်းသော ပဋိညာဉ်စာချုပ် သို့မဟုတ် ကုမ္ပဏီက လည်းကောင်း ကုမ္ပဏီကိုယ်စားလည်းကောင်း ချုပ်ဆိုသော ပဋိညာဉ်စာချုပ် သို့မဟုတ် စီမံချက်သည် ဒါရိုက်တာအကျိုးစီးပွားရှိခြင်းကြောင့် မပျက်ပြယ်စေရ။ ထိုပဋိညာဉ်စာချုပ် သို့မဟုတ် စီမံချက် သို့မဟုတ် အခန်း-၁၇ပါ ရာထူးနေရာတွင် ထမ်းဆောင်မှုအရ မည်သည့် ဒါရိုက်တာမဆို ကုမ္ပဏီနှင့် ယုံမှတ်အပ်နှံခံထားရသည့် ဆက်သွယ်မှုရှိသည် သို့မဟုတ် ဒါရိုက်တာရာထူးရှိသည်ဆိုသော အကျိုးအမြတ်နှင့် စပ်လျဉ်း၍ ကုမ္ပဏီသို့ တာဝန်ခံခြင်းမ ရှိစေရ။

ဒါရိုက်တာသည်လုပ်ငန်းတာဝန်ဆောင်ရွက်နိုင်ခြင်း

၁၀၉။ ဥပဒေကို အထောက်အထားပြုလိုက်နာလျက်၊ ဒါရိုက်တာ သို့မဟုတ် ဒါရိုက်တာ၏ လုပ်ငန်း အဖွဲ့သည် ကုမ္ပဏီအတွက် လုပ်ငန်းဆောင်ရွက်မှုဆိုင်ရာ အတတ်ပညာရှင်အဖြစ် ဆောင်ရွက်ခွင့်ရှိပြီး ထိုဆောင်ရွက်မှုအတွက် အခကြေးငွေရထိုက်ခွင့်ရှိသည်။

ဒါရိုက်တာများ၏အကျိုးခံစားခွင့်ပါရှိသောပဋိညာဉ်စာချုပ်တွင်ဒါရိုက်တာများမဲပေးခွင့်ရှိခြင်း

၁၁၀။ အပိုဒ်-၁၁၁ ကို အထောက်အထားပြု လိုက်နာလျက်၊ ဒါရိုက်တာသည် ဒါရိုက်တာ အကျိုးစီးပွားနှင့် (တိုက်ရိုက်ဖြစ်စေ၊ သွယ်ဝိုက်၍ဖြစ်စေ) ဆက်စပ်သော ပဋိညာဉ်စာချုပ် သို့မဟုတ် စီမံချက်နှင့် စပ်လျဉ်း၍ ဒါရိုက်တာများအစည်းအဝေးတွင် တက်ရောက်ခွင့်နှင့် မဲပေးခွင့်ရှိပြီး အစည်းအဝေး အထမြောက်ရန် အနည်းဆုံး တက်ရောက်ရမည့်ဦးရေ စာရင်းတွင် ထည့်သွင်းရေတွက်ခွင့်ရှိသည်။ အဆိုပါ စာချုပ်သို့ စီမံချက်တွင် တံဆိပ်ရိုက်ပြီးဝင်ရောက်ချုပ်ဆိုခွင့် သို့မဟုတ် သက်ဆိုင်သည့် အခြားအပြုအမူများ ပါဝင်ပြုလုပ်ခွင့်ရှိသည်။ သို့ရာတွင် အခြားဒါရိုက်တာများက ထိုဒါရိုက်တာနှင့် အကျိုးခံစားခွင့်၏ အခြေအနေကို ဖော်ပြသည့်ဆုံးဖြတ်ချက်တစ်ရပ်ကို အဆိုပါအကျိုးခံစားခွင့်သည် ထိုဒါရိုက်တာအား အစည်းအဝေးသို့ တက်ရောက်ခြင်း သို့မဟုတ် မဲပေးခြင်းများအတွက် ထိခိုက်စေခြင်းမရှိဟု ကျေနပ် လက်ခံကြောင်း ချမှတ်ရမည်။

အကျိုးခံစားခွင့်ပါရှိကြောင်းဒါရိုက်တာကကြေညာခြင်း

၁၁၁။ ဥပဒေအရမလိုအပ်သည့်အခါမှတစ်ပါး၊ ကုမ္ပဏီရေးရာကိစ္စတွင် ပုဂ္ဂလိကအကျိုးခံစားခွင့်ရှိသော ဒါရိုက်တာသည် ထိုသို့အကျိုးခံစားခွင့်ရှိသည်ကို သိသိချင်းအကျိုးခံစားခွင့်၏ သဘာဝနှင့်အတိုင်းအတာ၊ ကုမ္ပဏီရေးရာကိစ္စနှင့် ဆက်နွယ်မှုစသည့်အသေးစိတ်အချက်များကို ဖော်ပြ၍မြန်နိုင်သမျှမြန်မြန် ဒါရိုက်တာများထံသို့ဒါရိုက်တာများအစည်းအဝေးကြောင်းကြားအသိပေးရမည်။

အကျိုးခံစားခွင့်ကိုဒါရိုက်တာကကြေညာခြင်း

၁၁၂။ ဒါရိုက်တာသည် ၎င်းရာထူးလက်ရှိဖြစ်ခြင်း ပစ္စည်းတစ်ခုခုလက်ရှိပိုင်ဆိုင်ခြင်းရှိ၍ ထိုရာထူးပစ္စည်းလက်ရှိပိုင်ဆိုင်ခြင်းကြောင့် ဒါရိုက်တာအဖြစ် ဆောင်ရွက်ရာတွင် တာဝန်နှင့်အကျိုးစီးပွား ပဋိပက္ခဖြစ်နိုင်ကြောင်းဖြင့် ဖြစ်ပွားနိုင်သည့် ပဋိပက္ခ၏သဘောသဘာဝနှင့် အတိုင်းအတာကို ၎င်းဒါရိုက်တာဖြစ်ပြီး ပထမအကြိမ် ဒါရိုက်တာအစည်းအဝေးတွင်ဖြစ်စေ သို့မဟုတ် ထိုသို့သိရှိပြီး ပထမဆုံး ကျင်းပသည့် အစည်းအဝေးတွင်ဖြစ်စေကြေညာတင်ပြရမည်။

## အခန်း (၁၈)

## ဒါရိုက်တာများ၏အခွင့်အာဏာများ

ဒါရိုက်တာများ၏အခွင့်အာဏာများ

၁၁၃။ ဒါရိုက်တာများသည် ကုမ္ပဏီ၏စီးပွားရေးလုပ်ငန်းများကို စီမံခန့်ခွဲဆောင်ရွက်ခြင်း၊ စီမံချက်များပြုလုပ်ခြင်းကိုဆောင်ရွက်ပြီး အထွေထွေအစည်းအဝေးတွင် ကုမ္ပဏီကဥပဒေအရ သို့မဟုတ် ဤဖွဲ့စည်းပုံအခြေခံစည်းမျဉ်းအရ ကျင့်သုံးဆောင်ရွက်ရန်မလိုသော အခွင့်အာဏာများ၊ ဆင်ခြင်ဆုံးဖြတ်မှုများကို ကျင့်သုံးဆောင်ရွက်ခြင်းပြုနိုင်သည်။

၁၁၄။ ဥပဒေအရ သို့မဟုတ် ဤဖွဲ့စည်းပုံအခြေခံစည်းမျဉ်းအရ လိုအပ်ချက် သို့မဟုတ် ခွင့်ပြုချက်မှအပ ကုမ္ပဏီတွင်ပါဝင်သူများသည် ကုမ္ပဏီကိုလည်းကောင်း၊ ဒါရိုက်တာများကိုလည်းကောင်း ဤဖွဲ့စည်းပုံအခြေခံစည်းမျဉ်းအရ ကုမ္ပဏီနှင့်ဒါရိုက်တာများကို အပ်နှင်းသည့်အခွင့်အာဏာများ၊ ဆင်ခြင်ဆုံးဖြတ်ခြင်းများကို ဆောင်ရွက်ရာတွင်ညွှန်ကြားခွင့်မရှိပါ။

၁၁၅။ ဒါရိုက်တာများ၏ အခွင့်အာဏာလုပ်ပိုင်ခွင့်များကို ဤဖွဲ့စည်းပုံအခြေခံစည်းမျဉ်းနှင့် ဥပဒေအရခွင့်ပြုသည့်အတိုင်းကျင့်သုံးဆောင်ရွက်မည်။

ငွေချေးငှားခြင်း၊စုဆောင်းခြင်း၊ကုန်ကျစရိတ်နှင့်အသုံးစရိတ်များပေးချေခြင်း

၁၁၆။ အပိုဒ်-၁၁၃ ပါ ပြဋ္ဌာန်းချက်များကိုသာ ကန့်သတ်မထားဘဲ၊ ဒါရိုက်တာများသည်-

(က) ကုမ္ပဏီ၏ရည်ရွယ်ချက်အလို့ငှာ ငွေချေးငှားခြင်း၊ ရန်ပုံငွေစုဆောင်းခြင်း၊ ငွေကြေးရယူခြင်းနှင့် ပေါင်နှံခြင်းများနှင့် ကြွေးမြီတာဝန်တင်ရှိခြင်းများ သို့မဟုတ် အခြားနည်းအားဖြင့် ငွေကြေးပမာဏများအတွက် အာမခံတင်သွင်းခြင်းကိုခွင့်ပြုခြင်း၊ အကြွေးငွေများ၊ တာဝန်များ၊ ပဋိညာဉ်စာချုပ်များ၊ စီမံချက်များ၊ ကျခံဆောင်ရွက်ရန် တာဝန်များကို ဆောင်ရွက်ခြင်း၊ ဖြည့်ဆည်းခြင်းပြုလုပ်နိုင်ပြီး ထိုသို့ဆောင်ရွက်ခြင်းကိုဒါရိုက်တာများ သတ်မှတ်သည့်

စည်းကမ်းချက်များအတိုင်း ဆောင်ရွက်နိုင်သည်။ တောင်းခေါ်ခြင်း မပြုရသေးသော သို့မဟုတ် ပေးချေခြင်းမပြုရသေးသော မတည်ငွေရင်းအပေါ် အာမခံခွင့်ပြုခြင်းများကို လည်း ဆောင်ရွက်နိုင်သည်။

(ခ) ကုမ္ပဏီတည်ထောင်ခြင်းနှင့် အဆင့်မြှင့်တင်ခြင်းတို့အတွက် ကျခံသုံးစွဲထားသည့် ကုန်ကျစရိတ်များအသုံးစရိတ်များပေးချေခြင်း၊ပေးချေစေခြင်းများပြုလုပ်နိုင်သည်။

ဒါရိုက်တာများကအခြားကုမ္ပဏီများတွင်အစုရှယ်ယာမဲပေးခြင်း

၁၁၇။ ဥပဒေကိုအထောက်အထားပြု လိုက်နာလျက် အခြားကုမ္ပဏီတွင် ဒါရိုက်တာတစ်ဦးကို အရာရှိအဖြစ် ခန့်အပ်ခြင်း၊ အခြားကုမ္ပဏီ၏အရာရှိများကို အခကြေးငွေပေးခြင်းစသည့် ကိစ္စများတွင်ကုမ္ပဏီက ရယူပိုင်ဆိုင်ထားသော ကုမ္ပဏီတစ်ခုခု၏ အစုရှယ်ယာများအရ အပ်နှင်းသောမဲပေးခွင့်တွင် ဒါရိုက်တာတစ်ဦးဦးအတွက် အကျိုးခံစားခွင့်ရှိစေကာမူ ဒါရိုက်တာများသည် ၎င်းတို့ဆုံးဖြတ်သော အပြုအမူအတိုင်း မဲပေးခွင့်ကို ကျင့်သုံးနိုင်သည်။

ကိုယ်စားလှယ်သို့မဟုတ်တရားဝင်လွှဲအပ်ထားသောရှေ့နေ

၁၁၈။ ဒါရိုက်တာများသည် မည်သည့်အချိန်တွင် မည်သူ့ကိုမဆို ကုမ္ပဏီ၏ကိုယ်စားလှယ် သို့မဟုတ် တရားဝင်လွှဲအပ်ထားသော ရှေ့နေအဖြစ် ဤဖွဲ့စည်းပုံအခြေခံစည်းမျဉ်း သို့မဟုတ် ဥပဒေအရ ၎င်းတို့ကို ဖြစ်စေ၊ ဒါရိုက်တာတစ်ဦးဦးကိုဖြစ်စေ၊ အတွင်းရေးမှူးကိုဖြစ်စေ၊ အရာရှိတစ်ဦးဦးကိုဖြစ်စေ ပေးအပ်ထားသောအခွင့်အာဏာလုပ်ပိုင်ခွင့်နှင့် ဆင်ခြင်ဆုံးဖြတ်နိုင်ခွင့်တို့ကို ကျင့်သုံးရန် ခန့်အပ်နိုင်သည်။၎င်းတို့ဆုံးဖြတ်သတ်မှတ်သည့်အတိုင်းထိုသို့ခန့်ထားခြင်းကိုရုပ်သိမ်းခြင်း၊ပြောင်းလဲခြင်း၊ဆိုင်းငံ့ခြင်းတို့ကိုပြုလုပ်ခွင့်ရှိသည်။

အခွင့်အာဏာလုပ်ပိုင်ခွင့်ကိုကိုယ်စားဆောင်ရွက်စေရန်လွှဲပြောင်းပေးခြင်း

၁၁၉။ ဒါရိုက်တာများသည် ဤဖွဲ့စည်းပုံအခြေခံစည်းမျဉ်း သို့မဟုတ် ဥပဒေအရ ၎င်းတို့ကျင့်သုံးနိုင်သော အခွင့်အာဏာလုပ်ပိုင်ခွင့်နှင့် ဆင်ခြင်ဆုံးဖြတ်ပိုင်ခွင့်တို့က ဒါရိုက်တာများကော်မတီ၊ ဒါရိုက်တာတစ်ဦးတစ်ယောက်၊ ကုမ္ပဏီဝန်ထမ်းတစ်ဦးဦး သို့မဟုတ် အခြားသူတစ်ဦးဦးကို ကိုယ်စားဆောင်ရွက်စေရန် လွှဲပြောင်းပေးနိုင်သည်။ ထိုသို့လွှဲပြောင်းပေးခြင်းကို ၎င်းတို့ဆုံးဖြတ်သတ်မှတ်သည့်အတိုင်း ရုပ်သိမ်းခြင်း၊ ပြောင်းလဲခြင်း၊ ဆိုင်းငံ့ခြင်းတို့ကိုပြုလုပ်ခွင့်ရှိသည်။

အခန်း (၁၉)

ဒါရိုက်တာများလုပ်ငန်းဆောင်ရွက်ခြင်း

ဘုတ်အဖွဲ့အစည်းအဝေး

၁၂၀။ ဒါရိုက်တာများသည် အောက်ပါနည်းလမ်းတစ်ရပ်ရပ်ဖြင့် တွေ့ဆုံဆွေးနွေးနိုင်သည် -

(က) လူကိုယ်တိုင်ဖြစ်စေ။

(ခ) တယ်လီဖုန်းဖြင့်ဖြစ်စေ။

(ဂ) ရုပ်မြင်သံကြားနည်းပညာဖြင့်တွေ့မြင်ပြောဆို၍ဖြစ်စေ။

(ဃ) အခြားတိုက်ရိုက်ဆက်သွယ်ရေးကြားခံပစ္စည်းများဖြင့်ဖြစ်စေ။

ဘုတ်အဖွဲ့အစည်းအဝေးတွင်တက်ရောက်ကြောင်းမှတ်ယူခြင်း

၁၂၁။ ဒါရိုက်တာများအစည်းအဝေးကို ဖုန်းဖြင့်လည်းကောင်း၊ ရုပ်မြင်သံမြင်နည်းပညာဖြင့်လည်းကောင်း၊ အခြားဆက်သွယ်ရေး ကြားခံပစ္စည်းဖြင့်လည်းကောင်း ဆောင်ရွက်ခြင်းဖြစ်ပြီး တက်ရောက်သူအားလုံး၏ ပြောဆိုဆွေးနွေးချက်များကို ကြားနိုင်စွမ်းရှိပြီးကြားသိခဲ့ပါက အခြားသော ဒါရိုက်တာများအားလုံးသည် ထိုအစည်းအဝေးကိုတက်ရောက်ခဲ့ကြောင်းမှတ်ယူသည်။

ဘုတ်အဖွဲ့အစည်းအဝေးကျင်းပရန်နေရာ

၁၂၂။ ဒါရိုက်တာများအစည်းအဝေးကိုဖုန်းဖြင့်လည်းကောင်း၊ ရုပ်မြင်သံကြားနည်းပညာဖြင့်လည်းကောင်း၊ အခြားဆက်သွယ်ရေးကြားခံပစ္စည်းဖြင့်လည်းကောင်းဆောင်ရွက်ခြင်းဖြစ်လျှင် ဒါရိုက်တာများအစည်းအဝေး လုပ်ရန် သဘောတူညီသည့်နေရာတွင် ပြုလုပ်ခဲ့ခြင်းဖြစ်သည်ဟု မှတ်ယူရမည်။ ခြွင်းချက်အနေဖြင့် အဆိုပါနေရာတွင် အနည်းဆုံးအစည်းအဝေးတက်ရောက်သည့် ဒါရိုက်တာတစ်ဦးသည် အစည်းအဝေးကျင်းပ နေချိန်တစ်လျှောက်လုံး ရှိနေရန်လိုအပ်သည်။အစည်းအဝေးများကို ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံပြင်ပ တွင်လည်းကျင်းပနိုင်သည်။

ဘုတ်အဖွဲ့အစည်းအဝေးကျင်းပခြင်း

၁၂၃။ ဒါရိုက်တာတစ်ဦး၏တောင်းဆိုချက်အရ သို့မဟုတ် အတွင်းရေးမှူး(ရှိလျှင်)ကဒါရိုက်တာတစ်ဦး၏ တောင်းဆိုချက်အရမည်သည့်အချိန်တွင်မဆိုဒါရိုက်တာများ၏အစည်းအဝေးကိုကျင်းပရမည်။

ဘုတ်အဖွဲ့အစည်းအဝေးကျင်းပရန်အကြောင်းကြားခြင်း

၁၂၄။ ဒါရိုက်တာများ၏ အစည်းအဝေးတိုင်းအတွက် အကြောင်းကြားစာကို ဒါရိုက်တာတိုင်းသို့ ပေးပို့ အကြောင်းကြားရမည်ဖြစ်ပြီး ထိုသို့ပေးပို့ရန် ပျက်ကွက်ခြင်း သို့မဟုတ် လက်ခံရရှိခြင်း မရှိသောကြောင့် အစည်းအဝေးကို ပျက်ပြယ်စေခြင်းမရှိစေရ။

ဒါရိုက်တာနေရာလစ်လပ်နေသော်ငြားလည်းဒါရိုက်တာများကဆက်လက်ဆောင်ရွက်နိုင်ခြင်း

၁၂၅။ ဘုတ်အဖွဲ့တွင် ဒါရိုက်တာတစ်ဦးနေရာ လစ်လပ်နေစေကာမူ ဒါရိုက်တာများသည် ဆက်လက် ဆောင်ရွက်နိုင်သည်၊သို့သော်လည်း လစ်လပ်နေရာများကြောင့် အစည်းအဝေးထမြောက်ရန် လိုအပ်သော အနည်းဆုံးဦးရေ မပြည့်သည့်အခါတွင် အရေးပေါ်ကိစ္စ သို့မဟုတ် လစ်လပ်နေရာများဖြည့်ဆည်းရန် သို့မဟုတ် အထွေထွေအစည်းအဝေးကျင်းပရန် ဆောင်ရွက်ခြင်းမှအပဆက်လက်ဆောင်ရွက်နိုင်ခြင်းမရှိစေရ။

ဘုတ်အဖွဲ့အစည်းအဝေးအထမြောက်ရန်အနည်းဆုံးလိုအပ်သောဦးရေ

၁၂၆။ အစည်းအဝေးစတင်ချိန်တွင် အစည်းအဝေးအထမြောက်ရန် လိုအပ်သော ဦးရေတက်ရောက်ခြင်း မရှိက ယင်းဒါရိုက်တာများအစည်းအဝေးများတွင် စီးပွားရေးလုပ်ငန်းကိစ္စများဆုံးဖြတ်ဆောင်ရွက်ခွင့်မရှိပါ။ ဒါရိုက်တာများက အခြားနည်းဆုံးဖြတ်ခြင်းမရှိက အနည်းဆုံးတက်ရောက်ရမည့်ဦးရေကို အောက်ပါအတိုင်း သတ်မှတ်ပါသည်-

(က) ကုမ္ပဏီတွင်ဒါရိုက်တာတစ်ဦးတည်းရှိပါက ၎င်းဒါရိုက်တာ၊

(ခ) ကုမ္ပဏီတွင်ဒါရိုက်တာနှစ်ဦးသို့မဟုတ်နှစ်ဦးထက်ပိုရှိပါကဒါရိုက်တာနှစ်ဦး။

၁၂၇။ ဒါရိုက်တာများ အစည်းအဝေးအစတွင် အနည်းဆုံးလိုအပ်သော ဦးရေပြည့် တက်ရောက်ပါက ဒါရိုက်တာတစ်ဦးက အစည်းအဝေးနောက်ပိုင်းတက်ရောက်ရန် ပျက်ကွက်ခြင်း၊ အကြောင်းတစ်ခုခုကြောင့် မဲမပေးဘဲနေခြင်း ရှိသော်လည်း အစည်းအဝေးတစ်လျှောက်လုံးတွင် အနည်းဆုံးဦးရေပြည့် တက်ရောက်ကြောင်းမှတ်ယူမည်ဖြစ်သည်။

**ဘုတ်အဖွဲ့အစည်းအဝေးသည်အခွင့်အာဏာအားလုံးကိုကျင့်သုံးရန်အခွင့်ရှိသည်**

၁၂၈။ အနည်းဆုံးဦးရေပြည့်တက်ရောက်သော ဒါရိုက်တာများအစည်းအဝေးသည် ဤဖွဲ့စည်းပုံအခြေခံစည်းမျဉ်း သို့မဟုတ် ဥပဒေအရ ဒါရိုက်တာများကျင့်သုံးဆောင်ရွက်နိုင်သော အခွင့်အာဏာ လုပ်ပိုင်ခွင့်နှင့် ဆင်ခြင်ဆုံးဖြတ်နိုင်ခွင့်တို့ကိုကျင့်သုံးဆောင်ရွက်နိုင်သည်။

**ဘုတ်အဖွဲ့အစည်းအဝေးဥက္ကဋ္ဌ**

၁၂၉။ ဒါရိုက်တာများသည် အစည်းအဝေးတွင် ဥက္ကဋ္ဌကို ရွေးချယ်တင်မြှောက်ရမည်ဖြစ်ပြီး ၎င်း၏သက်တမ်းကိုလည်း သတ်မှတ်ပေးရမည်။ ဥက္ကဋ္ဌကို ရွေးချယ်တင်မြှောက်ထားခြင်း မရှိခြင်း သို့မဟုတ် ရွေးချယ်တင်မြှောက်ထားသည့် ဥက္ကဋ္ဌသည် အစည်းအဝေးကျင်းပရန် သတ်မှတ်သည့်အချိန် နောက်ပိုင်း (၁၅)မိနစ်အတွင်း အစည်းအဝေးသို့တက်ရောက်လာခြင်း မရှိက တက်ရောက်လာသည့် ဒါရိုက်တာများက ၎င်းတို့အထဲမှ ဒါရိုက်တာတစ်ဦးဦးကို ဥက္ကဋ္ဌအဖြစ်တင်မြှောက်ရမည်။

**မဲအများစုဖြင့်ဆုံးဖြတ်ရမည့်ကိစ္စရပ်များ**

၁၃၀။ ဒါရိုက်တာများအစည်းအဝေးတွင် တင်ပြလာသောမေးခွန်းများ၊ အဆိုပြုဆုံးဖြတ်ချက်များကို တက်ရောက်လာသည့် ဒါရိုက်တာများ၏ မဲအများစုဖြင့်ဆုံးဖြတ်ရန်ဖြစ်ပြီး ပေးသည့်မဲအရေအတွက် တူညီနေပါက ဥက္ကဋ္ဌသည်ဒါရိုက်တာအဖြစ် မဲပေးပိုင်ခွင့်ရှိသည့်အတိုင်း အဆုံးအဖြတ်မဲကိုပေးရမည်။

**ဆုံးဖြတ်ချက်ကိုစာဖြင့်ရေးသားခြင်း**

၁၃၁။ ဒါရိုက်တာတစ်ဦးတည်းရှိက ယင်းဒါရိုက်တာကဆုံးဖြတ်ချက်ကို မှတ်တမ်းတင်လက်မှတ်ရေးထိုး၍ ဆုံးဖြတ်ချက်ကိုထုတ်ပြန်ရမည်။

၁၃၂။ ဒါရိုက်တာတစ်ဦးထက်ပိုရှိက ဒါရိုက်တာများအစည်းအဝေး ကျင်းပခြင်းမရှိသည့်အချိန်တွင်ဆုံးဖြတ်ချက်အတွက်မဲပေးခွင့်ရှိသည့်ဒါရိုက်တာများအားလုံးက စာရွက်စာတမ်းတွင်ဖော်ပြထားသောဆုံးဖြတ်ချက်ကို ထောက်ခံကြောင်းစာရွက်စာတမ်းတွင် လက်မှတ်ရေးထိုးကာဆုံးဖြတ်ချက်ကို ထုတ်ပြန်နိုင်သည်။ထိုစာရွက်စာတမ်း၏မိတ္တူနှင့်သတင်းအချက်အလက်များပူးတွဲဖော်ပြ၍ဒါရိုက်တာများအားလုံးသို့လက်မှတ်ရေးထိုးရန် ဖြန့်ဝေရမည်။ဒါရိုက်တာများအားလုံးကလက်မှတ်ရေးထိုးပြီးချိန်တွင်ဆုံးဖြတ်ချက်ချမှတ်လိုက်သည်။

ကော်မတီ၏ လုပ်ပိုင်ခွင့်နှင့်အစည်းအဝေးများ

၁၃၃။ ဒါရိုက်တာများ၏ မည်သည့်ကော်မတီမဆိုသည် ဒါရိုက်တာများ၏ ညွှန်ကြားချက်များနှင့်အညီ ယင်းကိုလွှဲအပ်သောလုပ်ပိုင်ခွင့်၊အာဏာနှင့်ဆင်ခြင်ဆုံးဖြတ်ပိုင်ခွင့်တို့ကိုကျင့်သုံးရမည်။

၁၃၄။ ဒါရိုက်တာနှစ်ဦး သို့မဟုတ် နှစ်ဦးထက်ပို၍ပါဝင်သော ဒါရိုက်တာများ၏ ကော်မတီအစည်းအဝေးများ၊ လုပ်ငန်းဆောင်ရွက်ခြင်းများကို ဤဖွဲ့စည်းပုံအခြေခံစည်းမျဉ်းပါ ဒါရိုက်တာများ၏ အစည်းအဝေးများကျင်းပခြင်းဆိုင်ရာ စည်းမျဉ်းစည်းကမ်းများနှင့်သက်ဆိုင်သမျှ အကျုံးဝင်စေလျက် စီမံခန့်ခွဲဆောင်ရွက်ရသည်။ဒါရိုက်တာများ၏ညွှန်ကြားချက်များကအစားထိုးလွှမ်းမိုးခြင်းမရှိစေရ။

**ဒါရိုက်တာများ၏ဆောင်ရွက်ချက်တရားဝင်ခြင်း**

**၁၃၅။ ဘုတ်အဖွဲ့၏ဆောင်ရွက်ချက်၊ ဒါရိုက်တာများ၏ကော်မတီ တစ်ခု၏ ဆောင်ရွက်ချက်၊ဒါရိုက်တာအဖြစ်ပုဂ္ဂိုလ်တစ်ဦးဦး၏ ဆောင်ရွက်ချက်သည် နောက်ပိုင်းတွင်ဒါရိုက်တာကို သို့မဟုတ် တစ်ဦးဦးကို** ဒါရိုက်တာအဖြစ်ခန့်ထားခြင်းနှင့် ရွေးချယ်တင်မြှောက်ခြင်းတွင်ချွတ်ယွင်းချက်များရှိကြောင်း နှင့် ဒါရိုက်တာသည်အရည်အချင်းပျက်ယွင်းကြောင်း၊ ရာထူးလစ်လပ်နေကြောင်း၊ မဲပေးခွင့်ဆောင်ရွက်ခွင့်မရှိကြောင်း တွေ့ရှိရစေကာမူ ဆောင်ရွက်ချက်များသည် တရားဝင်သည်။

**ကုမ္ပဏီသည်ရာနှုန်းပြည့်ပိုင်ဆိုင်သည့်လက်အောက်ခံကုမ္ပဏီဖြစ်ပါက**

၁၃၆။ ကုမ္ပဏီသည်ရာနှုန်းပြည့်ပိုင်ဆိုင်သည့်လက်အောက်ခံကုမ္ပဏီတစ်ခုဖြစ်သည်ဆိုလျှင် -

(က) ဒါရိုက်တာတစ်ဦးချင်းစီသည် ကုမ္ပဏီ၏ အစုများပိုင်ဆိုင်သည့်ကုမ္ပဏီ၏ အကောင်းဆုံးအကျိုးစီးပွားအတွက်ဆောင်ရွက်ရန်အခွင့်အာဏာရှိသည်။

(ခ) **ဒါရိုက်တာတစ်ဦးသည် အောက်ပါအတိုင်းပြုလုပ်ပါက ကုမ္ပဏီ၏ အကောင်းဆုံးအကျိုးစီးပွားအတွက် သဘောရိုးဖြင့် ဆောင်ရွက်သည်ဟု မှတ်ယူရမည်-**

(၁) **ကုမ္ပဏီ၏ အစုများပိုင်ဆိုင်သည့်ကုမ္ပဏီ၏ အကောင်းဆုံး အကျိုးစီးပွားကို သဘောရိုးဖြင့် ဆောင်ရွက်ခြင်းအပြင်။**

(၂) ဒါရိုက်တာသည် ဆောင်ရွက်မှုများပြုလုပ်နေချိန်တွင် ကုမ္ပဏီသည် လူမွဲခံခြင်းမဖြစ်ဘဲဒါရိုက်တာ၏ဆောင်ရွက်ချက်ကြောင့်ကုမ္ပဏီသည်လူမွဲမဖြစ်ခြင်း။

အခန်း (၂၀)

အတွင်းရေးမှူး

၁၃၇။ ဒါရိုက်တာများသည် ဥပဒေနှင့်အညီ အတွင်းရေးမှူးတစ်ဦး ခန့်ထားနိုင်သည်။ဒါရိုက်တာများသည် မည်သူ့ကိုမဆို-

(က) ကုမ္ပဏီ၏အတွင်းရေးမှူးတာဝန်များကိုဆောင်ရွက်စေရန်ယာယီခန့်ထားနိုင်သည်။

(ခ) ကုမ္ပဏီ၏အတွင်းရေးမှူးအား ကူညီရန်ခန့်ထားနိုင်သည်။

၁၃၈။ အတွင်းရေးမှူးသည် ဒါရိုက်တာများဆုံးဖြတ်သတ်မှတ်သည့်အတိုင်း ရာထူးသက်တမ်းကာလ (အခကြေးငွေအပါအဝင်) လုပ်ပိုင်ခွင့်၊ အခွင့်အာဏာ၊ တာဝန်များအတိုင်းဆောင်ရွက်ရမည်။ ထိုသို့လုပ်ပိုင်ခွင့် အခွင့်အာဏာနှင့် လုပ်ငန်းဆောင်ရွက်ခြင်းများကို ဒါရိုက်တာများ၏ကွပ်ကဲမှုအတိုင်း ဆောင်ရွက်ရမည်။ အတွင်းရေးမှူးကို ဒါရိုက်တာများကရာထူးမှ ဖယ်ရှားနိုင်သည်။

အခန်း (၂၁)

**ရုံးတံဆိပ်တုံး**

၁၃၉။ ကုမ္ပဏီတွင်ရုံးတံဆိပ်တုံးရှိပါက-

(က) ဒါရိုက်တာများသည်ရုံးတံဆိပ်တုံးကိုလုံခြုံစွာသိမ်းဆည်းထားရမည်။

(ခ) ရုံးတံဆိပ်တုံးကို ဒါရိုက်တာများ၏ အခွင့်အာဏာဖြင့်သာသုံးစွဲရမည် သို့မဟုတ် ရုံးတံဆိပ်တုံးသုံးစွဲရန် ဒါရိုက်တာများက အခွင့်အာဏာပေးအပ်သူ ပုဂ္ဂိုလ်များ၊ ဒါရိုက်တာများ၏ကော်မတီ တို့ကသာ သုံးစွဲနိုင်သည်။

အခန်း(၂၂)

ငွေစာရင်းရှင်းတမ်း

**ငွေစာရင်းမှတ်တမ်း**

၁၄၀။ ဒါရိုက်တာများသည် သက်ဆိုင်ရာဥပဒေနှင့် ဤဖွဲ့စည်းပုံအခြေခံစည်းမျဉ်းအရ လိုအပ်သည့်အတိုင်း ငွေကြေးဆိုင်ရာစာရင်းနှင့် အခြားမှတ်တမ်းများကို ပြုလုပ်သိမ်းဆည်းရမည်။

**ငွေစာရင်းအစီရင်ခံစာနှင့်ဒါရိုက်တာများ၏အစီရင်ခံစာ**

၁၄၁။ ဥပဒေအရလိုအပ်၍ဖြစ်စေ၊ ဒါရိုက်တာများက ထိုသို့ဆုံးဖြတ်သတ်မှတ်၍ဖြစ်စေ၊ ကုမ္ပဏီသည်ပြီးခဲ့သည့် ဘဏ္ဍာရေးနှစ်အတွက် ငွေစာရင်းအစီရင်ခံစာနှင့် ဒါရိုက်တာများ၏ အစီရင်ခံစာကို သက်ဆိုင်ရာ ဥပဒေများနှင့်အညီပြုစုရမည်။

**စာရင်းစစ်နှင့်စာရင်းစစ်ခြင်း**

၁၄၂။ ဥပဒေလိုအပ်ချက်အရဖြစ်စေ၊ ဒါရိုက်တာများ၏ သဘောတူဆုံးဖြတ်ချက်အရဖြစ်စေ သတ်မှတ်သည့် ဘဏ္ဍာရေးနှစ်အတွက် စာရင်းစစ်ကိုခန့်အပ်ရာတွင်-

(က) စာရင်းစစ်ကိုသက်ဆိုင်ရာဥပဒေနှင့်အညီခန့်အပ်ခြင်းနှင့်ထုတ်ပယ်ခြင်းပြုလုပ်ရမည်။

(ခ) စာရင်းစစ်အတွက်အခကြေးငွေကိုဒါရိုက်တာကသဘောတူညီနိုင်သည်။

(ဂ) အဆိုပါဘဏ္ဍာရေးနှစ်အတွက် ကုမ္ပဏီ၏ ငွေစာရင်းအစီရင်ခံစာကို စာရင်းစစ်က သက်ဆိုင်ရာဥပဒေနှင့်အညီ စာရင်းစစ်ဆေးရမည်။

# အခန်း (၂၃)

## အမြတ်ဝေစုများနှင့်အခြားခွဲဝေခြင်းများ

**အမြတ်ဝေစုခွဲရန်လုပ်ပိုင်ခွင့်ကိုဒါရိုက်တာများတွင်အပ်နှင်းထားခြင်း**

၁၄၃။ ဒါရိုက်တာများသည်အမြတ်ဝေစုများ (ကြားကာလအမြတ်ဝေစုအပါအဝင်) ကို ပေးရန်ဆုံးဖြတ်နိုင်ပြီး ပမာဏ၊အချိန်နှင့်အမြတ်ဝေစုမည်သို့ခွဲဝေမည်ကိုလည်းသတ်မှတ်နိုင်သည်။

**အမြတ်ဝေစုအချိုးအစား**

၁၄၄။ ဤဖွဲ့စည်းပုံအခြေခံစည်းမျဉ်း၊ အစုရှယ်ယာအမျိုးအစားအတွက် စည်းနှောင်မှုရှိသော ပူးတွဲပါဝင်သောအခွင့်အရေးနှင့်ကန့်သတ်ချက်များ၊ ဥပဒေတို့ကိုအထောက်အထားပြု၍ အမြတ်ဝေစုများကိုကုမ္ပဏီတွင်ပါဝင်သူများအားပိုင်ဆိုင်သည့် အစုရှယ်ယာအလိုက် အချိုးကျခွဲဝေပေးရန်ဖြစ်သည်။

**ခွဲဝေနိုင်သောပစ္စည်းများနှင့်ခွဲဝေပေးခြင်း**

၁၄၅။ သက်ဆိုင်ရာဥပဒေများကို အထောက်အထားပြု၍ လိုက်နာလျက်၊ဒါရိုက်တာများသည် အမြတ်ဝေစုများ သို့မဟုတ် အခြားခွဲဝေခြင်းများကို သတ်မှတ်ပစ္စည်းများ နှင့် ခွဲဝေခြင်းဖြင့် တစ်ရပ်လုံးသော်လည်းကောင်း တစ်စိတ်တစ်ပိုင်းသော်လည်းကောင်း (ပေးချေပြီးအစုရှယ်ယာများ၊ ဒီဘင်ချာငွေချေးလက်မှတ်များ သို့မဟုတ် ကုမ္ပဏီ၏ သို့မဟုတ် အခြားကုမ္ပဏီ၏ အာမခံပစ္စည်းများ၊ ယုံမှတ်အပ်နှံသည့်ပစ္စည်းများ၊ အဆောက်အအုံတို့အပါအဝင်) ဆုံးဖြတ်ပေးနိုင်သည်။

၁၄၆။ ကုမ္ပဏီတွင်ပါဝင်သူ တစ်ဦးချင်းစီသည် ကုမ္ပဏီ၏ သို့မဟုတ် အခြားကုမ္ပဏီ၏ အစုရှယ်ယာများ၊ ဒီဘင်ချာငွေချေးလက်မှတ်များ သို့မဟုတ် အခြားငွေချေးသက်သေခံလက်မှတ်များ အပါအဝင် အပိုဒ်-၁၄၅ အရမည်သည့်ပစ္စည်းကိုမဆို ၎င်းတို့အားခွဲဝေပေးခြင်းကို သဘောတူလက်ခံရမည်။

**ဒါရိုက်တာ၏ဆင်ခြင်ဆုံးဖြတ်မှု**

၁၄၇။ ပစ္စည်းများ၊ရပိုင်ခွင့်များ တန်ဖိုးဖြတ်ခြင်းအပါအဝင် အမြတ်ဝေစု သို့မဟုတ် အခြားခွဲဝေခြင်းနှင့် သက်ဆိုင်သောကိစ္စရပ်အားလုံးကို ဒါရိုက်တာများမှ ဆုံးဖြတ်သတ်မှတ်မည်ဖြစ်ပြီး ဒါရိုက်တာများသည် အောက်ပါဆောင်ရွက်ချက်များကို ပြုလုပ်နိုင်သည်-

(က) အမြတ်ဝေစုများ/အခြားခွဲဝေခြင်းများနှင့်ပတ်သက်သည့်အခက်အခဲများ၊အငြင်းပွားမှုများ၊ သို့မဟုတ် အခြားကိစ္စများတို့ကို ဖြေရှင်းနိုင်သည်။

(ခ) ပစ္စည်း သို့မဟုတ် ရပိုင်ခွင့် သို့မဟုတ် ပစ္စည်း သို့မဟုတ် ရပိုင်ခွင့်၏အစိတ်အပိုင်း တစ်ရပ်ရပ်ကိုခွဲဝေခြင်းပြုရာတွင် တန်ဖိုးသတ်မှတ်ပေးနိုင်သည်။

(ဂ) ကုမ္ပဏီတွင်ပါဝင်သူများထံ သို့မဟုတ် ၎င်း၏ညွှန်ကြားချက်အရ သတ်မှတ်တန်ဖိုးအပေါ် အခြေခံပြု၍ငွေဖြင့် ပေးချေခြင်းပြုရန်ဆုံးဖြတ်နိုင်သည်။

(ဃ) ကုမ္ပဏီတွင်ပါဝင်သူများအတွက်ပစ္စည်း သို့မဟုတ် ရပိုင်ခွင့်ကိုယုံမှတ်အပ်နှံလက်ခံမည့်သူထံ အပ်နှံပေးခြင်းပြုနိုင်သည်။

ကုမ္ပဏီသည်အတိုးငွေပေးရန်မလိုအပ်ခြင်း

၁၄၈။ အမြတ်ဝေစုများ နှင့် အခြားခွဲဝေပေးခြင်းများအတွက် အတိုးငွေကို ကုမ္ပဏီအနေဖြင့်ပေးရန်မလို အပ်ပါ။ ကုမ္ပဏီသည်အချို့သော အမြတ်ဝေစုများနှင့်ခွဲဝေပေးခြင်းများကိုထိန်းသိမ်းထားနိုင်သည်။

၁၄၉။ ဥပဒေအရအစုရှယ်ယာများတစ်ဆင့်လွှဲအပ်ခြင်းကြောင့်တစ်ဦးဦးကပိုင်ဆိုင်ထိုက်သောအစုရှယ်ယာ နှင့်သက်ဆိုင်သောအမြတ်ဝေစုများနှင့်အခြားခွဲဝေပေးခြင်းများကိုသတ်မှတ်ထားသည့်လွှဲပြောင်းလက်ခံသူကို အစုရှယ်ယာရှင်အဖြစ် မှတ်ပုံတင်စာရင်းသွင်းခြင်း မပြုရသေးသည့်အချိန်ထိ ကုမ္ပဏီကထိန်းသိမ်းထားနိုင် သည်။

**ကုမ္ပဏီသည်ပေးသွင်းရန်ငွေကြေးပမာဏကိုလျှော့ချဖြတ်တောက်နိုင်သည်**

**၁၅၀။ ကုမ္ပဏီတွင်ပါဝင်သူမှ ပေးရန်ရှိသော အမြတ်ဝေစုများနှင့် အခြားခွဲဝေပေးခြင်းများကိုလည်းကောင်း တောင်းခံမှု သို့မဟုတ် အခြားနည်းဖြင့်ဆောင်ရွက်ခြင်းကြောင့်ကုမ္ပဏီတွင်ပါဝင်သူမှကုမ္ပဏီသို့ပေးချေရန် စေ့ရောက်သည့် ပမာဏများမှ လျှော့ချဖြတ်တောက်နိုင်သည်။**

ပေးချေခြင်း

၁၅၁။ ကုမ္ပဏီသည်အစုရှယ်ယာနှင့်စပ်လျဉ်း၍ ပေးရန်ရှိသောပမာဏ၊ အမြတ်ဝေစုနှင့် အခြားနည်းခွဲဝေ ပေးခြင်းတို့ကို ဒါရိုက်တာများက ဆုံးဖြတ်သည့်နည်းဖြင့် ပေးချေနိုင်သည်။

တောင်းဆိုခြင်းမရှိသည့်ခွဲဝေခြင်းများ

၁၅၂။ အစုရှယ်ယာများနှင့်စပ်လျဉ်း၍ ပေးရန်ရှိသောအမြတ်ဝေစုများအားလုံး သို့မဟုတ် အခြားငွေကြေး တစ်ရပ်ရပ်နှင့်ဆုံးဖြတ်ကြေညာပြီးနောက်တောင်းဆိုခြင်းမရှိသော သို့မဟုတ် ပေးချေရန်ကျရောက်သောခွဲဝေ ခြင်းများကို တောင်းဆိုသည့်အချိန်အထိ ကုမ္ပဏီ၏အကျိုးအမြတ်အတွက် ဒါရိုက်တာများက ရင်းနှီးမြှုပ်နှံ နိုင်သည် သို့မဟုတ် အခြားနည်းအသုံးပြုနိုင်သည်။

## အခန်း (၂၄)

## ဖျက်သိမ်းခြင်း

ပိုလျှံသည်များကိုခွဲဝေခြင်း

၁၅၃။ ဤဖွဲ့စည်းပုံအခြေခံစည်းမျဉ်း၊ ဥပဒေနှင့်အစုရှယ်ယာ အမျိုးအစားတို့အတွက် ပူးတွဲထားသော စည်းနှောင်မှုရှိသည့် အခွင့်အရေးများနှင့်ကန့်သတ်ထားခြင်းများကို အထောက်အထားပြု၍-

(က) ကုမ္ပဏီကိုဖျက်သိမ်းရာတွင် ကုမ္ပဏီတွင်ပါဝင်သူများအား ခွဲဝေရနိုင်သော မည်သည့် ပစ္စည်းရပိုင်ခွင့်ကိုမဆိုအစုရှယ်ယာအပေါ်ပေးချေပြီးပမာဏ သို့မဟုတ် ပေးထားပြီးဟု မှတ် ယူထားသောပမာဏကို (မစဉ်းစားဘဲ) ပိုင်ဆိုင်ထားသော အစုရှယ်ယာအရေအတွက် အချိုးအစားအလိုက် ကုမ္ပဏီတွင်ပါဝင်သူများအကြား ခွဲဝေပေးရမည်။

(ခ) ကုမ္ပဏီကိုဖျက်သိမ်းရာတွင် ကုမ္ပဏီတွင်ပါဝင်သူများသို့ ခွဲဝေနိုင်သောပစ္စည်း သို့မဟုတ် ရပိုင်ခွင့်ကိုဆုံးဖြတ်ရာတွင် အစုရှယ်ယာအတွက် ပေးချေခြင်းမရှိသေးသော ပမာဏသည် ကုမ္ပဏီပိုင်ပစ္စည်းသို့မဟုတ်ရပိုင်ခွင့်အဖြစ်ပြုမူသတ်မှတ်သည်။

(ဂ) ကုမ္ပဏီတွင်ပါဝင်သူများသို့ ခွဲဝေရနိုင်သောပစ္စည်းနှင့် ရပိုင်ခွင့်ပမာဏကိုခွဲဝေပေး ရာတွင် အစုရှယ်ယာအတွက်တစ်စိတ်တစ်ပိုင်းသာပေးချေထားသည့်ကုမ္ပဏီတွင်ပါဝင်သူထံခွဲဝေပေး သည့်နေ့ရက်တွင်ထိုအစုရှယ်ယာအတွက်မပေးချေရသေးသောပမာဏကိုနုတ်ပယ်ရမည်။

(ဃ) အပိုဒ်-၁၅၃(ဂ)အရ နုတ်ပယ်ခြင်းသည်တစ်စိတ်တစ်ပိုင်းသာပေးရသေးသည့်အစုရှယ်ယာ၏ အစုရှယ်ယာရှင်သို့ခွဲဝေပေးရာတွင်မပေးချေရသေးသောပမာဏကိုနုတ်ပယ်ပြီးလက်ကျန် ပေးချေရန်ရှိသည့်ပမာဏကို ထိုအစုရှယ်ယာရှင်သည် ကုမ္ပဏီသို့ပေးရမည်။

## အခန်း (၂၅)

## ထိန်းသိမ်းထားရှိရမည့်အစည်းအဝေးမှတ်တမ်းနှင့်မှတ်ပုံတင်စာရင်းများ

**အစည်းအဝေးမှတ်တမ်း**

၁၅၄။ ကုမ္ပဏီသည်ယင်း၏မှတ်တမ်းစာအုပ်တွင်အောက်ပါတို့ကိုဖြည့်သွင်းရမည်-

(က) သက်ဆိုင်သည့် အစည်းအဝေးကျင်းပပြီး ၂၁ ရက် အတွင်း၊အောက်ဖော်ပြပါ အသေးစိပ် အချက်များပါဝင်သော အစည်းအဝေးမှတ်တမ်း-

(၁) ဒါရိုက်တာများ၏အစည်းအဝေး နှင့် ဒါရိုက်တာများ၏ကော်မတီအစည်းအဝေး တို့တွင်အစည်းအဝေးတက်ရောက်သည့် ဒါရိုက်တာများ၏အမည်များ။

(၂) အခန်း-၁၇ အရ မည်သည့်ဒါရိုက်တာကမဆို ပြုလုပ်သည့် ကြေညာချက်အားလုံးနှင့် ပေးပို့သည့် အကြောင်းကြားစာများ။

(၃) အထွေထွေအစည်းအဝေးများ၊ ဒါရိုက်တာများ၏အစည်းအဝေးများ၊ ဒါရိုက်တာ များ၏ ကော်မတီအစည်းအဝေးများ၏ ဆုံးဖြတ်ချက်အားလုံး နှင့် လုပ်ငန်း ဆောင်ရွက်ချက် အားလုံး။

(ခ) အစည်းအဝေးကျင်းပခြင်းမရှိဘဲ ကုမ္ပဏီတွင်ပါဝင်သူများနှင့် ဒါရိုက်တာများက ချမှတ်သော ဆုံးဖြတ်ချက်များ။

အစည်းအဝေးမှတ်တမ်းများတွင်ဥက္ကဋ္ဌကလက်မှတ်ရေးထိုးရခြင်း

၁၅၅။ အထွေထွေအစည်းအဝေးများ၊ ဒါရိုက်တာများ၏အစည်းအဝေးများ၊ ဒါရိုက်တာများ၏ကော်မတီ အစည်းအဝေးများ၏ အစည်းအဝေးမှတ်တမ်းများတွင်အစည်းအဝေးဥက္ကဋ္ဌ သို့မဟုတ် နောက်နောင်ကျင်းပ သည့်အစည်းအဝေးဥက္ကဋ္ဌသို့မဟုတ်အခြားအခွင့်အာဏာရှိဒါရိုက်တာတို့ကအစည်းအဝေးပြီးနောက်သင့်တော် သောအချိန်တွင်လက်မှတ်ရေးထိုးရမည်။ထိုသို့လက်မှတ်ရေးထိုးခြင်းသည်အစည်းအဝေးမှတ်တမ်းတွင်ဖော်ပြ သောအကြောင်းအရာများအမှန်တကယ်ဆောင်ရွက်ခဲ့ကြောင်းသက်သေထင်ရှားစေသည်။

မှတ်ပုံတင်စာရင်းများ

၁၅၆။ ကုမ္ပဏီသည်ကုမ္ပဏီတွင်ပါဝင်သူများ၏ မှတ်ပုံတင်စာရင်းနှင့်ဥပဒေအရ ထိန်းသိမ်းထားရှိရန်လိုအပ်သောအခြားမှတ်ပုံတင်စာရင်းများကို ထိန်းသိမ်းထားရှိရမည်။

## အခန်း (၂၆)

## မှတ်တမ်းမှတ်ရာများကိုကြည့်ရှုစစ်ဆေးခြင်း

၁၅၇။ ဥပဒေကိုအထောက်အထားပြု၍လိုက်နာလျက်၊ ဒါရိုက်တာများသည်ကုမ္ပဏီ၏ စာရွက်စာတမ်းများနှင့်မှတ်တမ်းမှတ်ရာများကို မည်သူမဆိုသင့်လျော်သော အခကြေးငွေပေး၍ ကြည့်ရှုစစ်ဆေးနိုင်ရန် မည်သည့်အတိုင်းအတာထိဖွင့်လှစ်ပြသမည်ကို ဆုံးဖြတ်နိုင်သည်။ဤအခန်း-၂၆ သည်ဥပဒေအရ သို့မဟုတ် ကုမ္ပဏီနှင့်သဘောတူညီချက်အရ ကုမ္ပဏီတွင်ပါဝင်သူတစ်ဦး သို့မဟုတ် ဒါရိုက်တာတစ်ဦး သို့မဟုတ်ဒါရိုက်တာဟောင်းတစ်ဦး၏အခွင့်အရေးကိုကန့်သတ်ခြင်းမရှိပါ။

## အခန်း (၂၇)

## အကြောင်းကြားခြင်း

ကုမ္ပဏီကအကြောင်းကြားခြင်း

၁၅၈။ ကုမ္ပဏီသည်ကုမ္ပဏီတွင်ပါဝင်သူမည်သူ့ထံသို့မဆို အောက်ဖော်ပြပါနည်းလမ်းတစ်ခုခုဖြင့်အကြောင်းကြားစာပေးပို့နိုင်သည်-

(က) ကုမ္ပဏီတွင်ပါဝင်သူထံသို့အကြောင်းကြားစာကိုလူကိုယ်တိုင်ပေးပို့ခြင်း၊

(ခ) မှတ်ပုံတင်စာရင်းတွင်ရှိသော ကုမ္ပဏီတွင်ပါဝင်သူ၏လိပ်စာ သို့မဟုတ် ကုမ္ပဏီသို့အသိပေးထားသောကုမ္ပဏီတွင်ပါဝင်သူ၏လိပ်စာသို့လိပ်မူ၍အကြောင်းကြားစာပေးပို့ခြင်း၊

(ဂ) မှတ်ပုံတင်စာရင်းတွင်ရှိသော ကုမ္ပဏီတွင်ပါဝင်သူ၏ဖက်စ်အမှတ် သို့မဟုတ် ကုမ္ပဏီသို့အသိပေးထားသောကုမ္ပဏီတွင်ပါဝင်သူ၏ဖက်စ်အမှတ်သို့ဖက်စ်ဖြင့်ပို့၍အကြောင်းကြားစာပေးပို့ခြင်း၊

(ဃ) မှတ်ပုံတင်စာရင်းတွင်ရှိသော ကုမ္ပဏီတွင်ပါဝင်သူ၏ အီလက်ထရောနစ်လိပ်စာ သို့မဟုတ် ကုမ္ပဏီသို့ အသိပေးထားသောကုမ္ပဏီတွင်ပါဝင်သူ၏ အီလက်ထရောနစ်လိပ်စာသို့ လိပ်မူ၍အီးမေးလ်ဖြင့်အကြောင်းကြားစာပေးပို့ခြင်း၊

(င) မှတ်ပုံတင်စာရင်းတွင်ရှိသော ကုမ္ပဏီတွင်ပါဝင်သူ၏ လိပ်စာ သို့မဟုတ် ကုမ္ပဏီသို့အသိပေးထားသောကုမ္ပဏီတွင်ပါဝင်သူ၏လိပ်စာသို့လိပ်မူ၍စာတိုက်မှအကြောင်းကြားစာပေးပို့ခြင်း သို့မဟုတ်

(စ) ဒါရိုက်တာများကဆုံးဖြတ်သည့်အတိုင်း (ကြေညာခြင်းအပါအဝင်) မည်သည့်နည်းလမ်းတစ်ခုခုဖြင့်မဆိုအကြောင်းကြားစာပေးပို့ခြင်း။

ပူးတွဲအစုရှယ်ယာရှင်ထံသို့အကြောင်းကြားခြင်း

၁၅၉။ ကုမ္ပဏီသည်မှတ်ပုံတင်စာရင်းတွင် ပထမဦးစွာအမည်ဖော်ပြထားသော ပူးတွဲအစုရှယ်ယာရှင်ထံ သို့ အကြောင်းကြားစာပေးပို့ခြင်းဖြင့် အစုရှယ်ယာတစ်ခု၏ ပူးတွဲအစုရှယ်ယာရှင်များထံသို့ အကြောင်းကြားစာ ပေးပို့နိုင်ပြီး၊ထိုသို့ အကြောင်းကြားခြင်းသည် ပူးတွဲအစုရှယ်ယာရှင်အားလုံးထံသို့ လုံလောက်စွာအကြောင်း ကြားပြီးဖြစ်ကြောင်းမှတ်ယူနိုင်သည်။

အကြောင်းကြားစာပေးပို့ပြီးဖြစ်သည်ဟုမှတ်ယူနိုင်ခြင်း

၁၆၀။ ကြေညာခြင်းဖြင့် အကြောင်းကြားရာတွင် ထိုကြေညာချက်ပါဝင်သော သတင်းစာထုတ်ဝေသည့်နေ့ တွင် အကြောင်းကြားပြီးဖြစ်ကြောင်းမှတ်ယူသည်။

၁၆၁။ စာတိုက်မှအကြောင်းကြားစာပေးပို့ရာတွင် စာတိုက်တွင်အကြောင်းကြားစာ ထည့်ပြီးသည့်နေ့၏ နောက်တစ်နေ့တွင် အကြောင်းကြားပြီးဖြစ်ကြောင်းမှတ်ယူသည်။

၁၆၂။ ဖက်စ်ဖြင့်လည်းကောင်း၊အခြားအီလက်ထရောနစ်နည်းဖြင့်လည်းကောင်းအကြောင်းကြားစာပေး ပို့ရာတွင်ပေးပို့သည့်နေ့တွင်ပင်အကြောင်းကြားပြီးဖြစ်ကြောင်းမှတ်ယူသည်။

၁၆၃။ ကုမ္ပဏီတွင်ပါဝင်သူထံသို့ အကြောင်းကြားစာပေးပို့ရာတွင် လူကိုယ်တိုင်အကြောင်းကြားစာပေး၍ လည်းကောင်း၊၎င်း၏လိပ်စာတပ်၍ ထားခဲ့ခြင်းဖြင့်လည်းကောင်း ပေးပို့ပြီးနောက်တွင် အကြောင်းကြားပြီး ဖြစ်ကြောင်းမှတ်ယူမည်။

အစုရှယ်ယာလွှဲပြောင်းရယူသူအပေါ်စည်းနှောင်မှုရှိသောအကြောင်းကြားစာများ

၁၆၄။ ဥပဒေအရသော်လည်းကောင်း၊လွှဲပြောင်းပေးခြင်းဖြင့်သော်လည်းကောင်းသို့မဟုတ် အခြားနည်း အားဖြင့်လည်းကောင်းအစုရှယ်ယာရထိုက်ခွင့်ရှိသူသော ပုဂ္ဂိုလ်၏အမည်နှင့်လိပ်စာကိုမှတ်ပုံတင်စာရင်းတွင် မထည့်သွင်းရသေးမီ ယခင်အစုရှယ်ယာရှင်ထံသို့ အစုရှယ်ယာနှင့်စပ်လျဉ်း၍ ပေးပို့သောအကြောင်းကြား စာများသည် အစုရှယ်ယာကို လွှဲပြောင်းရရှိခဲ့ပြီးဖြစ်သည့် အစုရှယ်ယာရထိုက်ခွင့်ရှိသူအပေါ် စည်းနှောင်မှု ရှိသည်။

အကြောင်းကြားစာတွင်လက်မှတ်ထိုးခြင်း

၁၆၅။ ကုမ္ပဏီမှ ပေးရန်ရှိသော မည်သည့်အကြောင်းကြားစာတွင်မဆို ရေးထိုးသည့် လက်မှတ်သည် စာဖြင့်ရေးသားဖော်ပြခြင်းဖြင့်လည်းကောင်း၊ ပုံနှိပ်ခြင်းဖြင့်လည်းကောင်း သို့မဟုတ် အီလက်ထရောနစ် နည်းလမ်းဖြင့်လည်းကောင်း ပြုလုပ်နိုင်သည်။

နောက်ဆက်တွဲ

(သာမန်အစုရှယ်ယာမဟုတ်သော အခြားရှယ်ယာအမျိုးအစားများရှိပါက ယင်းတို့၏ သတ်မှတ်ချက်များကို ဖော်ပြရန်)